ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

☎ ၀၁-၆၅၈၁၂၇
🖷 ၀၁-၆၅၈၁၃၆

စာအမှတ်၊ မရက-၂/မ- ၂၁၈/၂၀၁၇( ၅၄၄ )
ရက်စွဲ ၊ ၂၀၁၇ ခုနှစ် ဇူလိုင်လ ၁၅ ရက်

အကြောင်းအရာ။ **ဥရောပအာရှ အဖျော်ယမကာ ကုမ္ပဏီလီမိတက် (Europe & Asia Beverages Company Limited) မှ ကုန်ကြမ်းပစ္စည်း တင်သွင်းမှုနှင့် ပတ်သက်၍ အမိန့်ကြော်ငြာစာတွင် ထပ်မံဖြည့်စွက်ခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ Europe & Asia Beverages Company Limited ၏၁၃-၆-၂၀၁၇ ရက်စွဲပါ စာအမှတ်၊ EABC/2017/00004

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၅ ခုနှစ် ဒီဇင်ဘာလ ၁၆ ရက်နေ့စွဲပါ ခွင့်ပြုမိန့်အမှတ်၊ မနသ-၁၁၁၀/၂၀၁၅၊ အမိန့်ကြော်ငြာစာအမှတ်၊ ၁၂၃/၂၀၁၅ (မနသ) အပိုဒ် ၃ တွင် ကုန်ကြမ်းပစ္စည်း တင်သွင်းမှုနှင့် ပတ်သက်၍ အောက်ပါအတိုင်း ထပ်မံဖြည့်စွက် လိုက်သည်-

ဥပဒေပုဒ်မ ၂၀(ဈ) အရ လုပ်ငန်းတည်ဆောက်မှုပြီးစီး၍ ပထမ သုံးနှစ် အတွက် ကုန်ထုတ်လုပ်ရန် တင်သွင်းသည့် ကုန်ကြမ်းများအပေါ်တွင် အကောက်ခွန်နှင့် အခြား ပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၂။ ဥရောပအာရှ အဖျော်ယမကာ ကုမ္ပဏီလီမိတက် (Europe & Asia Beverages Company Limited) အနေဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ၂၀၁၅ ခုနှစ် ဒီဇင်ဘာလ ၁၆ ရက်နေ့ ရက်စွဲဖြင့် ထုတ်ပြန်ထားသည့် အမိန့်ကြော်ငြာစာအမှတ်၊ ၁၂၃/၂၀၁၅ (မနသ)ပါ စည်းမျဉ်း စည်းကမ်းများအတိုင်း လိုက်နာဆောင်ရွက်ရမည်။

ဥက္ကဋ္ဌ(ကိုယ်စား)
( အောင်နိုင်ဦး၊ အတွင်းရေးမှူး)

**အုပ်ချုပ်မှုဒါရိုက်တာ**
**ဥရောပအာရှအဖျော်ယမကာကုမ္ပဏီလီမိတက် (Europe & Asia Beverages Company Limited)**

**ဖြန့်ဝေခြင်း**

ပြည်ထောင်စု အစိုးရအဖွဲ့ရုံး
ပြည်ထဲရေးဝန်ကြီးဌာန
သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန

စာချုပ်(မူကြမ်း)နှင့်အတူ မြေပိုင်ဆိုင်မှုအထောက်အထားပါ ပူးတွဲတင်ပြမည်ဖြစ်ကြောင်း၊ လုပ်ငန်းအတွက် Architect အကုန်လုပ်ပြီးဖြစ်ကာ Conceptual Plan ရေးဆွဲပြီးဖြစ်ကြောင်း၊ လိုအပ်ချက်များနှင့် ပြင်ဆင်တင်ပြပေးရန်ရှိသည်များကို ပြန်လည်ပြင်ဆင်၍ တင်ပြပေးမည်ဖြစ်ကြောင်း ရှင်းလင်းတင်ပြပါသည်။

အစည်းအဝေးမှ First Myanmar Construction Co., Ltd. သည် ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီပိုင် ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ မင်းဓမ္မလမ်းနှင့်တော်ဝင်လမ်းထောင့်တွင် B.O.T စနစ်ဖြင့် အဆင့်မြင့်ဈေးဝယ်စင်တာ၊ စားသောက်ဆိုင်များ၊ ကဇာတ်ရုံများ၊ ရုပ်ရှင်ရုံများ၊ ရုံးခန်းများ၊ ဟိုတယ်၊ အီလက်ထရောနစ်နှင့် ကုန်သွယ်ရေးစင်တာများ၊ ဝန်ဆောင်မှုလုပ်ငန်းများဆောင်ရွက်ရန် ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီမှတစ်ဆင့် အဆိုပြုချက်တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်းပြီး ကုမ္ပဏီမှ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီနှင့်ညှိနှိုင်း၍ အဓိကဆောင်ရွက်လိုသည့် လုပ်ငန်းအမျိုးအစားဖြင့်သာ တွက်ချက်မှုများပြင်ဆင်၍ အဆိုပြုချက်အား ပြန်လည်တင်ပြရန်ဆုံးဖြတ်ပါသည်။

**၁၀။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် ဥရောပအာရှ အဖျော်ယမကာ ကုမ္ပဏီလီမိတက် ရေသန့်၊ နို့၊ ပဲနို့နှင့် အချိုရည်ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ**

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာန ဒုတိယညွှန်ကြားရေးမှူး ဒေါ်မီမီအောင်က အမှာစာကို ဖတ်ကြားပြီး ကုမ္ပဏီမှ ရှင်းလင်းတင်ပြရန် ဖိတ်ခေါ်ပါသည်။

ကုမ္ပဏီ၏ဒါရိုက်တာ ဦးဇော်ဝင်းထွန်းက မိမိတို့ကုမ္ပဏီသည် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ရေသန့်၊ နို့၊ ပဲနို့ နှင့် အချိုရည်ထုတ်လုပ်ခြင်း နှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ကြောင်း၊ လုပ်ငန်းဆောင်ရွက်မည့်နေရာမှာ မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်ခရိုင်၊ စဉ့်ကိုင်မြို့နယ်၊ မြောက်ကိုင်းကျေးရွာအုပ်စုရှိ စုစုပေါင်းမြေဧရိယာ (၁၁.၇၇)ဧကပေါ်တွင် စက်ရုံတည်ဆောက်၍ လုပ်ကိုင်မည်ဖြစ်ကြောင်း၊ အဆိုပါမြေများအနက် ကုမ္ပဏီအမည်နှင့်ထုတ်ပေးထားသော လယ်မြေမှလွဲ၍ ကျန်မြေများမှာ လန/၃၉ ရရှိပြီးမြေများဖြစ်ပြီး မြေဂရန်ရရှိရန်အတွက် တင်ပြထားဆဲဖြစ်ကြောင်း၊ စုစုပေါင်းရင်းနှီးမြှုပ်နှံမှုပမာဏမှာ အမေရိကန်ဒေါ်လာ ၂၆.၂၁၆၇ သန်း အပါအဝင် ကျပ် ၄၈,၉၅၂.၈၆ သန်းဖြစ်ပြီး အဆိုပါရင်းနှီးမြှုပ်နှံမှုပမာဏထဲတွင် နို့နှင့်ပဲနို့ ထုတ်လုပ်သည့်စက်များ၏ တန်ဖိုးပါဝင်ကြောင်း၊ စက်များကို ဆွီဒင်နိုင်ငံထုတ်စက်များကို ဝယ်ယူအသုံးပြုမည်ဖြစ်ပြီး Processing မှအစ ဆွီဒင်နိုင်ငံတွင် အသုံးပြုသည့်အတိုင်းလုပ်ကိုင်မည်ဖြစ်ပြီး ရေသန့်စက်မှာ ဂျာမနီနိုင်ငံမှဖြစ်ကြောင်း၊ ပဲနို့ကို 125 ml ဗူးနှင့် 180ml ဗူး ထုတ်လုပ်မည်ဖြစ်ပြီး ရေသန့်ကို 1 Liter 660 ml နှင့် 330 ml ထုတ်လုပ်မည်ဖြစ်ကြောင်း၊ ပဲနို့အတွက်ကုန်ကြမ်းပဲပိစပ်ကို ပြည်ပမှတင်သွင်းမည်ဖြစ်ပြီး မြန်မာနိုင်ငံမှပဲပိစပ်မှာ ၁၀၀% ပရိုတင်းဓာတ်ထုတ်လုပ်ရန်ကိုက်ညီမှုမရှိ၍ ပြည်ပမှတင်သွင်းရခြင်းဖြစ်ကြောင်း၊ ပဲနို့မှာ ပုံမှန်နို့ထက် ဈေးနှုန်းသက်သာပြီး ပုံမှန်နို့၏ ပရိုတင်းဓာတ်နှင့်အတူတူဖြစ်ကြောင်း၊ နို့နှင့်ပဲနို့သောက်ခြင်းသည် ပြည်သူလူထုကို ကျန်းမာရေးနှင့်ညီညွတ်စေပါကြောင်း၊ ရင်းနှီးမြှုပ်နှံမှုသက်တမ်းမှာ ကနဦး (၅၀)နှစ် နှင့် သက်တမ်းတိုး (၁၀)နှစ် (၂)ကြိမ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ (၂)နှစ်ဖြစ်ကြောင်း၊ လုပ်ငန်းဆောင်ရွက်ရာ၌ ပြည်တွင်းဝန်ထမ်း (၃၇၁)ဦး နှင့် ပြည်ပဝန်ထမ်း (၄)ဦး စုစုပေါင်းဝန်ထမ်း (၃၇၅)ဦး ခန့်ထားမည်ဖြစ်ကြောင်း၊ ဆောက်လုပ်မည့်စက်ရုံဒီဇိုင်း

ရေးဆွဲပြီးဖြစ်ကာ အဆိုပြုချက်တွင် Processing Flow Chart တင်ပြထားပါကြောင်း ရှင်းလင်းတင်ပြပါသည်။

အစားအသောက်နှင့် ဆေးဝါးကွပ်ကဲရေး ဦးစီးဌာန ဦးစီးအရာရှိ ဒေါက်တာဖြိုးမာန်သက်ဦးက ကုမ္ပဏီမှ ပဲနို့အတွက်ပဲပိစပ်ကုန်ကြမ်းကို ပြည်ပမှတင်သွင်းမည်ဟုပြောသဖြင့် ကျန်ကုန်ကြမ်းများ ပြည်ပမှ တင်သွင်းရန်ရှိ-မရှိသိလိုကြောင်း၊ ပြည်ပမှကုန်ကြမ်းများတင်သွင်းမည်ဆိုပါက မိမိတို့ဌာနသို့လျှောက်ထား၍ ခွင့်ပြုချက်ရယူရန်လိုပြီး မည်သည့်နိုင်ငံမှ တင်သွင်းမည်ဆိုသည်ကို ဖော်ပြပေးရန်လိုကြောင်း၊ ရေသန့်ထုတ်လုပ်ပါကလည်း ဌာနမှထောက်ခံချက်ရယူခြင်းမပြုဘဲ ဈေးကွက်သို့ ဖြန့်ဝေခြင်းမပြုရန် ဆွေးနွေးပြောကြားပါသည်။

မြန်မာ့ဆေးဝါးလုပ်ငန်း အထွေထွေမန်နေဂျာ ဦးကျော်ငြိမ်းက ကုမ္ပဏီသည် ပဲနို့ကို ပဲပိစပ်မှထုတ်လုပ်မည်ဖြစ်ပြီး နို့ထုတ်လုပ်ရာ၌ နွားနို့နှင့်နို့မှုန့် မည်သည်ကို အသုံးပြုမည်ကိုသိလိုကြောင်း၊ နို့မှုန့်အသုံးပြုမည်ဆိုပါက မည်သည့်နိုင်ငံမှတင်သွင်းမည်ကိုသိလိုပြီး နို့မှုန့်အသုံးပြုခြင်းမှာ အန္တရာယ် အနည်းငယ်ရှိကြောင်း၊ ကုမ္ပဏီအနေဖြင့် စက်ရုံတည်ဆောက်ရန် ပြည်ပမှစက်ပစ္စည်းများ တင်သွင်းမည်ဖြစ်၍ မည်သည့်လုပ်ငန်းစဉ်အတွက် မည်သည့်စက်အမျိုးအစား အသုံးပြုမည်ကို တင်ပြရန်လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန လက်ထောက်ညွှန်ကြားရေးမှူး ဦးမြင့်ခိုင်က လုပ်ငန်းဆောင်ရွက်မည့် မြေဧရိယာများစုစုပေါင်း (၃၁.၇၇) ဧကမှာ ယခင်ကလယ်ယာမြေများဖြစ်ပြီး အစိုးရမှ အခြားနည်းဖြင့်အသုံးပြုခွင့်ပြုထားသဖြင့် လန/၃၉ ရရှိထားသည့် မြေများဖြစ်ကြောင်း၊ အဆိုပါမြေများကို စက်မှုဇုန်ရရှိရန်လျှောက်ထားဆဲဖြစ်ပြီး လုပ်ငန်းသက်တမ်းကို ကနဦး (၅၀)နှစ် နှင့် သက်တမ်းတိုး (၁၀)နှစ် (၂)ကြိမ် တင်ပြထားသည်ကိုတွေ့ရကြောင်း၊ လုပ်ငန်းသက်တမ်းကို စက်မှုဇုန်တွင်ပါရှိသည့်သက်တမ်းနှင့်ကြည့်ရှု၍ မြေဂရန်ရရှိအောင် ဆက်လက်ဆောင်ရွက်ရန်လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

ရန်ကုန် လျှပ်စစ်ဓာတ်အားပေးရေး ကော်ပိုရေးရှင်း လက်ထောက်အထွေထွေမန်နေဂျာ ဦးမောင်ကိုက လုပ်ငန်းဆောင်ရွက်မည့်စက်ရုံတွင် Transformer KVA မည်မျှတပ်ဆင်မည်ကိုသိလိုကြောင်း ဆွေးနွေးပြောကြားပါသည်။

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန ဒုတိယညွှန်ကြားရေးမှူး ဦးသိန်းဆွေက ပြည်ပမှတင်သွင်းမည့် ရုံးသုံးပစ္စည်းစာရင်းတွင် 1250 KVA မီးစက် (၄)လုံး တင်သွင်းမည်ဟု ဖော်ပြထားသဖြင့် အဆိုပါမီးစက်များအတွက် မှတ်ပုံတင်လျှောက်ထားရမည်ဖြစ်ကြောင်း ဆွေးနွေးပြောကြားပါသည်။

အကောက်ခွန်ဦးစီးဌာန ညွှန်ကြားရေးမှူး ဦးကြည်ဦးက ပြည်ပမှ အစားအသောက်ကုန်ကြမ်းများတင်သွင်းပါက အစားအသောက်နှင့် ဆေးဝါးကွပ်ကဲရေးဦးစီးဌာန၏ ထောက်ခံချက် ပူးတွဲတင်ပြရန်လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

ပြည်တွင်းအခွန်များဦးစီးဌာန ဒုတိယညွှန်ကြားရေးမှူး ဦးအောင်သူထူးက စီးပွားရေးဆိုင်ရာတွက်ချက်မှုများတွင် ကုန်သွယ်လုပ်ငန်းခွန် ၅% ထည့်သွင်းတွက်ချက်ထားသည်ကို တွေ့ရကြောင်း၊ ၂၀၁၅ ခုနှစ်ပြည်ထောင်စုအခွန်အကောက်ဥပဒေအရ ဂျုံ၊ ဂျုံမှုန့် တင်သွင်းပါက အခွန်ကင်းလွတ်ခွင့် ရှိသော်လည်း အဆိုပါအခွန်ကင်းလွတ်ခွင့်၌ နို့၊ နို့မှုန့်နှင့် ပဲနို့မပါသော်လည်း ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့်ပေးသင့်

သည့် ကုန်စည်ဟုယူဆထားပါကြောင်း၊ ရေသန့်နှင့်အချိုရည် ထုတ်လုပ်မည်ဖြစ်၍ ကုန်သွယ်လုပ်ငန်းခွန် ၅% ထည့်သွင်းတွက်ချက်ရမည်ဖြစ်ကြောင်း၊ လုပ်ငန်းဆောင်ရွက်မည့်မြေကို တန်ဖိုးသင့်၍ ရင်းနှီးမြှုပ်နှံမှုထဲသို့ ထည့်ဝင်ထားသည်ကိုတွေ့ရသဖြင့် အကြံပြုလိုသည်မှာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်ရသည်ဖြစ်စေ၊မရသည်ဖြစ်စေ ရှယ်ယာစုထည့်ထား၍ အခွန်ရှင်းလင်းပေးရန်လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန ဒုတိယညွှန်ကြားရေးမှူး ဦးဇော်မိုးက ကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းမှာ ရေသန့်၊ ပဲနို့၊ နို့နှင့် အချိုရည်ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းဖြစ်၍ ကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်း(Initial Enviromental Examination-IEE) ရေးဆွဲရန်လိုပြီး အဆိုပါအစီရင်ခံစာအရ လိုအပ်ပါက ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assess-ment-EIA) ရေးဆွဲတင်ပြရန်လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် တွဲဖက်အတွင်းရေးမှူး ဒေါ်မြသူဇာက ပြည်ပမှတင်သွင်းမည့် မော်တော်ယာဉ်စာရင်းတွင် လူစီးမော်တော်ယာဉ်များ ပါဝင်ပါက အခွန်ပေးဆောင်၍ တင်သွင်းရမည်ဖြစ်ပြီး ပစ္စည်းအမျိုးအစားများကို သေချာစွာ ဖော်ပြပေးရန်လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

အဆိုပြုချက်စိစစ်ရေးအဖွဲ့ အဖွဲ့ခေါင်းဆောင် ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန ညွှန်ကြားရေးမှူးချုပ် ဦးအောင်နိုင်ဦးက ပြည်ပမှ လုပ်ငန်းသုံးမော်တော်ယာဉ်များအား အခွန်ကင်းလွတ်ခွင့်ဖြင့် တင်သွင်းခွင့်ပြုပါကြောင်း၊ လုပ်ငန်းဆောင်ရွက်မည့် မြေများနှင့်ပတ်သက်၍ စက်မှုမြေဂရန်ရရှိအောင် မြန်မြန်ဆောင်ရွက်ရန်လိုကြောင်း၊ နိုင်ငံသားက မိမိကိုယ်ပိုင်မြေပေါ်တွင် လုပ်ငန်းဆောင်ရွက်ပါက လုပ်ငန်းသက်တမ်းဖော်ပြရန်မလိုဘဲ မြေဂရန်သက်တမ်းပေါ်မူတည်၍ ရာသက်ပန်လုပ်ကိုင်နိုင်ပါကြောင်း၊ လုပ်ငန်းဆောင်ရွက်မည့် စဉ့်ကိုင်မြို့နယ်ပတ်ဝန်းကျင်မှာ နို့ထုတ်သည့်နေရာဖြစ်၍ ဖြစ်နိုင်ပါက အနာဂါတ်တွင် လုပ်ငန်းဆောင်ရွက်ရာ၌ ပြည်တွင်းမှထွက်ရှိသည့် နို့များကိုသာ အသုံးပြုစေလိုကြောင်း၊ လက်ရှိတွင် နွားမွေးမြူသည့်ခြံများမှာ အရှုံးပေါ်နေကြ၍ ယခုလုပ်ငန်းလုပ်ကိုင်ရာ၌ ၎င်းတို့ခြံမှထွက်ရှိသည့် နို့များကိုဝယ်ယူအသုံးပြုပါက ၎င်းတို့အတွက်လည်း အကျိုးရှိနိုင်မည်ဖြစ်ကြောင်း ဆွေးနွေးပြောကြားပါသည်။

ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန ဒုတိယညွှန်ကြားရေးမှူးချုပ် ဒေါ်ချိုချိုဝင်း က ထုတ်လုပ်မည့်ပစ္စည်းများအတွက် ဗူးအဖုံးများကို ယခုစက်ရုံမှ တစ်ခါတည်း ထုတ်လုပ်ရန်ရှိ-မရှိ သိလိုပြီး အဆိုပါပစ္စည်းများကို မည်သည့်ကုန်အမှတ်တံဆိပ်တပ်ဆင်မည်ကိုသိလိုကာ မှတ်ပုံတင်ပြီးခြင်းရှိ-မရှိသိလိုကြောင်း၊ လက်ရှိတင်ပြထားရာတွင် အမှတ်တံဆိပ် (၂)ခုတွေ့ရှိရကြောင်း ဆွေးနွေးပြောကြားပါသည်။

ကုမ္ပဏီ၏ဒါရိုက်တာ ဦးကျော်ဝင်းထွန်းက ရှင်းလင်းတင်ပြရာတွင် လုပ်ငန်းဆောင်ရွက်ရာ၌ အသုံးပြုမည့်ကုန်ကြမ်းပစ္စည်းအများစုကို ပြည်ပမှတင်သွင်းမည်ဖြစ်ပြီး ပဲပိစပ်ကို ကနေဒါနိုင်ငံနှင့် အမေရိကန်နိုင်ငံတို့မှဝယ်ယူပြီး စင်္ကာပူနိုင်ငံရှိစက်ရုံမှတစ်ဆင့် တင်သွင်းမည်ဖြစ်ကြောင်း၊ Packing Material မှာ Tetra Pack ဖြစ်၍ ပြည်ပမှတင်သွင်းမည်ဖြစ်ကြောင်း၊ နို့မှုန့်ကို ကနေဒါနိုင်ငံရှိ ကမ္ဘာမြေပေါ်တွင် နို့မှုန့်ထုတ်လုပ်မှုနှင့်ပတ်သက်၍ နာမည်ကြီးကုမ္ပဏီတစ်ခုမှ တင်သွင်းမည်ဖြစ်ပြီး ပြည်တွင်းနို့ farm မှ ရရှိနိုင်ပါကလည်း ဝယ်ယူအသုံးပြုမည်ဖြစ်ကြောင်း၊ ယခုနောင်ချိုမြို့တွင် နို့ farm တစ်ခု တည်ထောင်ထားသည်ဟုကြားသိရပါကြောင်း၊ အဆိုပြုချက်တွင် Processing Flow Chart တင်ပြထားပြီး မည်သည့်လုပ်ငန်းစဉ်အတွက် မည်သည့်စက်အမျိုးအစား အသုံးပြုမည်ဆိုသည်မှာ မပါသေး၍ တင်ပြပေးမည်ဖြစ်ကြောင်း၊

စက်ရုံတွင် လျှပ်စစ်ဓာတ်အား ၁၀ မဂ္ဂါဝပ် သုံးစွဲမည်ဟု လျှပ်စစ်ဌာနသို့ လျှောက်ထားမည်ဖြစ်ကြောင်း၊ ပြည်ပမှတင်သွင်းမည့် 1250 KVA မီးစက် (၄)လုံးအတွက် မှတ်ပုံတင်လျှောက်ထားမည်ဖြစ်ကြောင်း၊ ပဲနို့နှင့် နို့အတွက် ပြည်ပမှ စက္ကူဗူးနှင့်ပိုက်များတင်သွင်းမည်ဖြစ်ပြီး ရေသန့်အတွက်ဗူးများကို ယခုစက်ရုံမှထုတ်လုပ်မည်ဖြစ်ကြောင်း၊ ပဲနို့နှင့်နို့အတွက် ကုန်အမှတ်တံဆိပ်မှာ "Vito" ဖြစ်ပြီး ရေသန့်အတွက် ကုန်အမှတ်တံဆိပ်မှာ "asia" ဖြစ်ကြောင်း၊ အဆိုပြုချက်တွင် လိုအပ်ချက်များနှင့် အခြားပြင်ဆင် တင်ပြပေးရန်ရှိသည်များကို ပြန်လည်ပြင်ဆင် တင်ပြပေးမည်ဖြစ်ကြောင်း ရှင်းလင်းတင်ပြပါသည်။

အစည်းအဝေးမှ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် ဥရောပအာရှ အဖျော်ယမကာ ကုမ္ပဏီလီမိတက် ရေသန့်၊ နို့၊ ပဲနို့နှင့် အချိုရည် ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စအား အောက်ပါ အတိုင်း ဆုံးဖြတ်ပါသည်-

(က) လုပ်ငန်းစဉ်အလိုက် အသုံးပြုမည့် စက်ပစ္စည်း အမျိုးအစားတင်ပြရန်။ ✓

(ခ) စီးပွားရေးဆိုင်ရာ တွက်ချက်မှုတွင် ထုတ်လုပ်သည့်ကုန်စည်အလိုက် ပေးဆောင်ရမည့် ကုန်သွယ်လုပ်ငန်းခွန် ၅ % ထည့်သွင်းတွက်ချက် ဖော်ပြရန်။ ✓

(ဂ) သဘောထားများစုံလင်ပြီး လိုအပ်ချက်များ ပြင်ဆင်တင်ပြလာပါက ကော်မရှင် အစည်းအဝေးသို့ တင်ပြရန်။ ✓

**၁၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် စကြာဝဠာဘုရင်(ဆောက်လုပ်ရေး)ကုမ္ပဏီလီမိတက်မှ တစ်နေ့လျှင် ၇၅ တန်ကျ ပျော့ဖတ်နှင့်စက္ကူစက်ရုံ တည်ဆောက်၍ ပျော့ဖတ်နှင့်ထုတ်ပိုးစက္ကူ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ**

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာန ဒုတိယညွှန်ကြားရေးမှူး ဒေါ်မီမီအောင် က အမှာစာကို ဖတ်ကြားပြီးကုမ္ပဏီမှ ရှင်းလင်းတင်ပြရန် ဖိတ်ခေါ်ပါသည်။

ကုမ္ပဏီ၏ အကြံပေး ဦးသက်ဦးက ရှင်းလင်းတင်ပြရာတွင် မိမိတို့ကုမ္ပဏီသည် ပဲခူးတိုင်းဒေသကြီး၊ ပန်းတောင်းမြို့နယ်၊ သူရဲတန်းကျေးရွာအုပ်စု၊ ကျောက်မြောင်းကွင်းရှိ မြေဧရိယာ (၁၄.၀၅)ဧကပေါ်တွင် တစ်နေ့လျှင် ၇၅တန်ကျ ပျော့ဖတ်နှင့်စက္ကူစက်ရုံ တည်ဆောက်၍ ပျော့ဖတ်နှင့် ထုပ်ပိုးစက္ကူ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ကြောင်း၊ အဆိုပါမြေပေါ်တွင် အဆောက်အဦ(၁၅)လုံး ဆောက်လုပ်မည်ဖြစ်ပြီး လုပ်ငန်းသက်တမ်းမှာ (၃၀)နှစ်ဖြစ်ကြောင်း၊ အဆောက်အဦဆောက်လုပ်ရန် အတွက် ပဏာမစူးစမ်းလေ့လာမှုကာလမှာ (၁၂)လ ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ (၂၄)လဖြစ်ကြောင်း၊ စုစုပေါင်းရင်းနှီးမြှုပ်နှံမှုပမာဏမှာ အမေရိကန်ဒေါ်လာ ၃၁.၀၁သန်း အပါအဝင် ကျပ် ၅၇,၀၉၇.၅၅ သန်း ဖြစ်ကြောင်း ရှင်းလင်းတင်ပြပါသည်။

အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း ဒုတိယအထွေထွေမန်နေဂျာ ဦးချိုအေးက ၂၀၁၅ ခုနှစ် ဧပြီလမှစ၍ ယခင် အထည်အလိပ်လုပ်ငန်း နှင့် စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်းကို ပေါင်း၍ အမှတ်(၃) အကြီးစားစက်မှုလုပ်ငန်းအဖြစ် ဆောင်ရွက်ပါကြောင်း၊ ယခင်က မြန်မာ့စက္ကူနှင့် ဓာတုဗေဒလုပ်ငန်း အဖြစ်လည်းတည်ရှိခဲ့ဖူးကြောင်း၊ ယခုအဆိုပြုလုပ်ငန်းသည် ယခင်က မိမိတို့ဝန်ကြီးဌာနမှ ဆောင်ရွက်သည့် ရေတာရှည်မြို့နယ်၊ ရေနီမြို့တွင် စက္ကူနှင့်ပျော့ဖတ်စက်ရုံ ရှိခဲ့ဖူးကြောင်း၊ စက္ကူစက်ရုံနှင့်စပ်လျဉ်း

ဖြင့် ကော်မရှင်မှ ခွင့်ပြုထားသော မူလပိုင်ရှင်နှင့် ရှင်းရခြင်းမဟုတ်ပဲ Joint Operation စာချုပ်ပါ လူနှင့် ရှင်းပေးနေရကြောင်း၊ စာချုပ်သည်လည်း တံဆိပ်ခေါင်း ကပ်ထားခြင်းမရှိ၍ တရားဝင်ဟု သတ်မှတ်၍မရကြောင်း၊ ဒေါ်ဒါအပ်နှံသူသည် မြန်မာနိုင်ငံတွင် ဒေါ်လာ သိန်း သန်း ချီ၍ အပ်နှံသူ ဖြစ်နေ၍ လက်မလွှတ်လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

ကော်မရှင်အတွင်းရေးမှူး ညွှန်ကြားရေးမှူးချုပ် ဦးအောင်နိုင်ဦးက ယခုကိစ္စတွင် အပိုင်း နှစ်ပိုင်းရှိကြောင်း၊ အလုပ်သမားကိစ္စဖြစ်ပါက အလုပ်သမား၊ အလုပ်အကိုင်နှင့်လူမှုဖူလုံရေးဝန်ကြီးဌာနတွင်ရှင်းရန်လိုကြောင်း၊ ကော်မရှင်အနေဖြင့် ရင်းနှီးမြှုပ်နှံသူကိုသာ အသိအမှတ်ပြုခြင်းဖြစ်၍ ရှင်းပေးရန်မလိုကြောင်း၊ UMFCCI အနေဖြင့် ကော်မရှင်ခွင့်ပြုမိန့်ပါ ကမကထပြုသူမှ မမှန်မကန် ပြုလုပ်ခြင်းအတွက် ကော်မရှင်ရုံးသို့ အကြောင်းကြားမှသာ အဖွဲ့ဖွဲ့၍ စစ်ဆေးပြီး နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ အရေးယူ၍ ရပါကြောင်း၊ သို့ဖြစ်ပါ၍ စက်ရုံအနေဖြင့် တင်ပြခြင်းမဟုတ်ပဲ UMFCCI သို့ ပေးပို့သော တိုင်စာအပေါ် UMFCCI အနေဖြင့် စိစစ်တွေ့ရှိချက်အား ကော်မရှင်သို့ တင်ပြရန်သာလိုကြောင်း ရှင်းလင်းပြောကြားပါသည်။

ကော်မရှင်အစည်းအဝေးမှ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Vent D'est (Myanmar) Co., Ltd. နှင့် ဖက်စပ် နိုင်ငံခြားရင်းနှီးမြှုပ်နှံဖြင့် Manufacturer GFT Enterprise Co.,Ltd.တို့မှ CMPစနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန်နှင့် ခွင့်ပြုမိန့်ထုတ်ပေးရန် ဆုံးဖြတ်ပါသည်။

**၄။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် ဥရောပအာရှ အဖျော်ယမကာကုမ္ပဏီလီမိတက် (Europe & Asia Beverages Co., Ltd.) မှ ရေသန့်၊ နို့နှင့် ပဲနို့ မျိုးစုံ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ**

ကော်မရှင် အတွင်းရေးမှူး ညွှန်ကြားရေးမှူးချုပ် ဦးအောင်နိုင်ဦးက အမှာစာပါ အကြောင်းအရာအား ဖော်ပြလျက် အဓိကအချက်များကို ကုမ္ပဏီမှ ဆွေးနွေးတင်ပြပေးရန် ဖိတ်ခေါ်ပါသည်။

ကုမ္ပဏီ၏ ဒါရိုက်တာ ဦးကျော်ဝင်းထွန်းက ရင်းနှီးမြှုပ်နှံမည့် လုပ်ငန်းအခြေအနေများနှင့် ဆောင်ရွက်မည့် လုပ်ငန်းစဉ်များကို power point ဖြင့် ရှင်းလင်းတင်ပြပါသည်။

ကော်မရှင်အဖွဲ့ဝင် ဒုတိယဝန်ကြီး ဗိုလ်မှူးချုပ်ကျော်ဇံမြင့်က မြေကိစ္စနှင့်ပတ်သက်၍ လယ်မြေဖြစ်သည့်အတွက် လယ်ယာမြေကို အခြားနည်းနှင့် ပြောင်းလဲအသုံးပြုရန် ခွင့်ပြုပေးထားသော်လည်း အခြားနည်းသုံးပြီး စက်မှုဇုန်ရန် အဖြစ် ပြောင်းလျှောက်ရန် လိုကြောင်း ပြောကြားရာ ကုမ္ပဏီ၏ ဒါရိုက်တာ ဦးကျော်ဝင်းထွန်းမှ စက်မှုဇုန်ရန် လျှောက်ထားဆဲဖြစ်ကြောင်း ရှင်းလင်းတင်ပြပါသည်။

ကော်မရှင်အဖွဲ့ဝင် ဒေါက်တာအောင်ထွန်းသက် မှ CSR စဥ်းစားသောပုံစံကို ကြိုဆိုကြောင်း၊ မူလတန်းကလေးတွေကို နို့နှင့် ပဲနို့တိုက်ရန် စီစဥ်ထားသည့်အပေါ် ကုန်ချော ၃ မျိုးအနက် ရေသန့်နဲ့ ပဲနို့သည် ကလေးများအတွက်သင့်တော်သော်လည်း အချိုရည်သည် အဆင်မပြေကြောင်း၊ CSR ကို Child Nutrition Program ရေးဆွဲကာ စက်ရုံနဲ့အနီးစပ်ဆုံး ရပ်ကွက် ပညာရေးဌာနမှ တာဝန်ရှိသူများနှင့်တိုင်ပင်ပြီး တစ်လတစ်ခါ၊ တစ်ပတ်တစ်ခါ ပုံမှန်လုပ်မည့် စီမံချက်ရေးဆွဲလိုက်ပါက ပို၍

ကောင်းမွန်ကြောင်း၊ အဆိုပါကိစ္စကို Budget ဆွဲ၍ CSR ၂% ၏ ဘောင်ထဲဝင်အောင်လုပ်ရန် အကြံပြုလိုကြောင်း၊ တစ်ကမ္ဘာလုံးက ကြည့်ကြတဲ့ Global Compact website တွင်ဝင်၍ တစ်ခါ တည်းလျှောက်ပါက UNGC အဖွဲ့ဝင်စာရင်းထဲပါသွားမည်ဖြစ်ကြောင်း၊ ကုမ္ပဏီအနေဖြင့်လည်း အခြား CSRလုပ်ရန်မလိုပဲ ပြီးသွားမည် ဖြစ်ကြောင်း ဆွေးနွေး ပြောကြားပါသည်။

ကော်မရှင်အဖွဲ့ဝင် ဒေါ်ခိုင်ခိုင်နွယ် မှ UMFCCI တွင်လည်း CSR အသင်းချုပ်ရှိကြောင်း၊ ဆက်သွယ်လျှင် ဝိုင်း၍ကူညီပေးမည်ဖြစ်ကြောင်း ဆွေးနွေးပြောကြားပါသည်။

ကော်မရှင်အဖွဲ့ဝင် သူရဦးသောင်းလွင် မှ အချိုရည်ထုတ်ပါက Special Consumption tax ကောက်မည်ဖြစ်၍ ကြိုတင်တွက်ချက်ထားရန်လိုကြောင်း၊ သို့မဟုတ်လျှင် ကောက်သည့် အချိန် တွင် တွက်ခြေမကိုက်ဖြစ်နိုင်ကြောင်း ဆွေးနွေးပြောကြားရာ ကုမ္ပဏီ၏ ဒါရိုက်တာ ဦးကျော်ဝင်းထွန်း က နို့၊ ပဲနို့နှင့် ရေသန့်သာ ထုတ်လုပ်မည် ဖြစ်ကြောင်း၊ ထုတ်ကုန်ထဲတွင် အချိုရည် မပါကြောင်း ရှင်း လင်းတင်ပြပါသည်။

ကော်မရှင်အဖွဲ့ဝင် ဒေါက်တာအောင်ထွန်းသက် က ကုန်ကြမ်းရရှိမှုကို မေးမြန်းရာ ကုမ္ပဏီ၏ ဒါရိုက်တာ ဦးကျော်ဝင်းထွန်းမှ ကုန်ကြမ်းအနေနဲ့ ပဲကို ကနေဒါမှ တင်သွင်းရမည်ဖြစ်ကြောင်း၊ ရေရှည်တွင်မူ တင်သွင်းရန် မဖြစ်နိုင်သောကြောင့် နောင်တွင် မြန်မာနိုင်ငံသို့ တင်သွင်း၍ မြန်မာ တောင်သူများ စိုက်ပျိုးနိုင်အောင် စီစဉ်ဆောင်ရွက်မည်ဖြစ်ပါကြောင်း၊ မြန်မာနိုင်ငံရှိ ပဲမျိုး များမှာ protein level အပြည့်မရခြင်း၊ အလုံးအရွယ်အစားမညီခြင်းတို့ကြောင့် ထုတ်လုပ်မှု process အတွက်အခက်အခဲရှိနိုင်၍ အမေရိကန် ကုမ္ပဏီနှင့်ဆက်သွယ်ထားကြောင်း ရှင်းလင်း တင်ပြခြင်း အပေါ် ကော်မရှင်အဖွဲ့ဝင် ဒေါက်တာအောင်ထွန်းသက် က ၎င်းကို CSR အနေဖြင့် သတ်မှတ်၍ ရကြောင်း၊ ကိုယ့်ကုန်ကြမ်းအား ပြည်တွင်းတွင် စိုက်ပျိုးနိုင်လျှင် နိုင်ငံခြားငွေသက်သာပြီး နိုင်ငံတော် အတွက် အကျိုးရှိနိုင်သည့်အပြင် အနီးအနားရှိ ရပ်ကွက်ကျေးရွာဖွံ့ဖြိုးရေးကိုလည်း အထောက်အကူ ဖြစ်စေကြောင်း ဆွေးနွေးပြောကြားပါသည်။

ကော်မရှင်ဒုတိယဥက္ကဋ္ဌ ပြည်ထောင်စုဝန်ကြီး ဦးဒွေးအောင်က အဆောက်အဦ တည်ဆောက် မှု၊ ကုန်ကြမ်း အလုံအလောက် ရရှိနိုင်မှုတို့ကို မေးမြန်းပြီး ဒဂုံဝတီမြစ်ဘေးတွင် စက်ရုံဆောက်မည် ဖြစ်သောကြောင့် အညစ်အကြေးစွန့်ပစ်ခြင်းများကို ဂရုစိုက်သင့်ကြောင်း ဆွေးနွေးပြောကြားရာ ကုမ္ပဏီ၏ဒါရိုက်တာဦးကျော်ဝင်းထွန်းမှ အဆောက်အဦ တည်ဆောက်မှု အနေဖြင့် conceptual plan သာတင်ပြထားခြင်းဖြစ်ပြီး ဆောက်လုပ်မှုအားစတင်ခြင်းမရှိသေးကြောင်း၊ ဆောက်လုပ်ရေး ကာလကို (၂)နှစ်သတ်မှတ်ထားကြောင်း၊ ကုန်ကြမ်းအနေဖြင့် နို့ လုံလောက်စွာ ရရှိနိုင်ရန် နောင်ချိုမှ နို့စက်ရုံနှင့် ကျောက်ဆည်ရှိ နွားခြံများမှ source ရယူနိုင်ရန် ကြိုးစားသွားမည်ဖြစ်ပြီး မလုံလောက် ပါက နို့မှုန့်ကို အသုံးပြုမည်ဖြစ်ကြောင်း ၊ ပဲကုန်ကြမ်း အနေဖြင့် နောင်တွင် မြန်မာနိုင်ငံ၌ စိုက်ပျိုး အသုံးပြုနိုင်ရန် ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ ရေဆိုး၊ ရေညစ်များ အတွက် Waste Water Treatment System ပါရှိကြောင်း ရှင်းလင်းတင်ပြပါသည်။

ကော်မရှင်အစည်းအဝေးမှ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် ဥရောပအာရှ အဖျော် ယမကာကုမ္ပဏီလီမိတက် (Europe & Asia Beverages Co., Ltd.) မှ ရေသန့်၊ နို့နှင့် ပဲနို့ မျိုးစုံ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန်နှင့် ခွင့်ပြုမိန့် ထုတ်ပေးရန် ဆုံးဖြတ်ပါသည်။

**၅။ Eden Hotels & Resorts Co., Ltd. မှ နေပြည်တော် ဒက္ခိဏသီရိမြို့နယ်တွင် ဟိုတယ် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ**

ကော်မရှင်အတွင်းရေးမှူး ညွှန်ကြားရေးမှူးချုပ် ဦးအောင်နိုင်ဦးက အမှာစာပါ အကြောင်း အရာအား ဖော်ပြလျှက် အဓိကအချက်များကို ရှင်းလင်း တင်ပြပါသည်။

ကုမ္ပဏီ၏ ဒါရိုက်တာဖြစ်သူဦးဝဏ္ဏခိုင်က ရင်းနှီးမြှုပ်နှံမည့် လုပ်ငန်းအခြေအနေများနှင့် ဆောင်ရွက်မည့် လုပ်ငန်းစဉ်များကို power point ဖြင့်ရှင်းလင်းတင်ပြပါသည်။

ကော်မရှင်အတွင်းရေးမှူး ညွှန်ကြားရေးမှူးချုပ် ဦးအောင်နိုင်ဦးက ယခင်နိုင်ငံတော် အစီအစဉ်ဖြင့် လုပ်ခဲ့သည့် ဧည့်ဂေဟာများအနက် Eden နဲ့ပူးပေါင်းလုပ်မည့် project တစ်ရပ်ဖြစ် ကြောင်း၊ နိုင်ငံတော်ဧည့်ဂေဟာ (၃)ခုကိုပထမ Amara၊ ဒုတိယ Maxနှင့် တတိယ Eden တို့ကို ပေးခြင်းဖြစ်ကြောင်း၊ proposal နဲ့ပတ်သက်ပြီး နှိုင်းယှဉ်ကြည့်ပါက တစ်ခုနှင့်တစ်ခု သိသာ ထင်ရှား သည့်ကွာဟမှုမရှိကြောင်း၊ တည်ဆောက်ရေး ကာလအနေဖြင့် projectသည် ၇၅% ခန့်ပြီးစီး၍ ၂၅%ခန့်ကျန်နေသေးကြောင်း၊ proposal အရ ဆက်လက်ဆောင်ရွက်မည့် လုပ်ငန်းများ အတွက် တင်သွင်းမည့်ပစ္စည်းများတင်ပြထားချက် အပေါ် မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းမှ ထောက်ခံထား သည့် အရေအတွက်အတိုင်းသာ ဆက်လက်တင်သွင်းစေမှာ ဖြစ်ကြောင်း ဆွေးနွေးပြောကြားပါသည်။

ကော်မရှင်ဒုတိယဥက္ကဋ္ဌ ပြည်ထောင်စုဝန်ကြီး ဦးဌေးအောင်က နေပြည်တော်စည်ပင်သာယာ ရေးကော်မတီ၏ မြေငှားသက်တမ်းကိုမေးမြန်းရာ ကုမ္ပဏီ၏ ဒါရိုက်တာဖြစ်သူ ဦးဝဏ္ဏခိုင် မှ နှစ် (၃၀)ငှားရန် ရရှိထားကြောင်း ရှင်းလင်းတင်ပြရာ ကော်မရှင်အဖွဲ့ဝင် ဒုတိယဝန်ကြီး ဗိုလ်မှူးချုပ် ကျော်ဇံမြင့်က ရိုးရိုးငှားရန်သာဖြစ်နေ၍ စက်မှုမြေငှားရန်ပြန်လျှောက်ရမည် ဖြစ်ကြောင်း ဆွေးနွေး တင်ပြပါသည်။

ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာနမှ ညွှန်ကြားရေးမှူး ဦးမျိုးမြင့်က နေပြည်တော်တွင် လက်ရှိဟိုတယ် ၆၃ လုံးနှင့် အခန်းပေါင်း ၅၀၉၇ ခန်းရှိကြောင်း၊ ဟိုတယ်များမှ ရရှိသော စာရင်းအရ ၂၀၁၄ခုနှစ် အတွင်းတွင် ပြည်တွင်းဧည့်သည် ၁၄၀၄၀၀ကျော်၊ ပြည်ပ ဧည့်သည် ၁၄၈၀၀၀ ကျော် လာရောက်တည်းခိုခဲ့ကြောင်း၊ ၂၀၁၅ခုနှစ်တွင်ယခင်နှစ်ထက် ဧည့်သည် တည်းခိုမှု ၁၆% တိုးတက် နေကြောင်း၊ နေပြည်တော်တွင် နိုင်ငံတကာအဆင့်ပွဲများ ကျင်းပနေသည့် အတွက် ယခုကဲ့သို့ ကမ္ဘာ့ အဆင့်မီ Hiltonနှင့်တွဲ၍ဟိုတယ်လုပ်ငန်း လုပ်ကိုင်ခြင်းကို ဂုဏ်ယူ ပါကြောင်း၊ ၎င်းတွင် ဝန်ထမ်း ဦးရေ ၂၂၅ဦး ရှိပြီး အခန်းအရေအတွက် ၂၀၂ခန်း ရှိမည်ဖြစ်၍ အခန်း အရေအတွက်နှင့် လိုက်ဖက် မည့်ဝန်ထမ်းဦးရေမှာ အနည်းဆုံး ၃၀၀ခန့် ရှိသင့်ကြောင်း ရှင်းလင်း တင်ပြပါသည်။

ဖြင့် ကော်မရှင်မှ ခွင့်ပြုထားသော မူလပိုင်ရှင်နှင့် ရှင်းရခြင်းမဟုတ်ပဲ Joint Operation စာချုပ်ပါ လူနှင့် ရှင်းပေးနေရကြောင်း၊ စာချုပ်သည်လည်း တံဆိပ်ခေါင်း ကပ်ထားခြင်းမရှိ၍ တရားဝင်ဟု သတ်မှတ်၍မရကြောင်း၊ အော်ဒါအပ်နှံသူသည် မြန်မာနိုင်ငံတွင် ဒေါ်လာ သိန်း သန်း ချီ၍ အပ်နှံသူ ဖြစ်နေ၍ လက်မလွှတ်လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

ကော်မရှင်အတွင်းရေးမှူး ညွှန်ကြားရေးမှူးချုပ် ဦးအောင်နိုင်ဦးက ယခုကိစ္စတွင် အပိုင်း နှစ်ပိုင်းရှိကြောင်း၊ အလုပ်သမားကိစ္စဖြစ်ပါက အလုပ်သမား၊ အလုပ်အကိုင်နှင့်လူမှုဖူလုံရေးဝန်ကြီးဌာနတွင်ရှင်းရန်လိုကြောင်း၊ ကော်မရှင်အနေဖြင့် ရင်းနှီးမြှုပ်နှံသူကိုသာ အသိအမှတ်ပြုခြင်းဖြစ်၍ ရှင်းပေးရန်မလိုကြောင်း၊ UMFCCI အနေဖြင့် ကော်မရှင်ခွင့်ပြုမိန့်ပါ ကမကထပြုသူမှ မမှန်မကန် ပြုလုပ်ခြင်းအတွက် ကော်မရှင်ရုံးသို့ အကြောင်းကြားမှသာ အဖွဲ့ဖွဲ့၍ စစ်ဆေးပြီး နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ အရေးယူ၍ ရပါကြောင်း၊ သို့ဖြစ်ပါ၍ စက်ရုံအနေဖြင့် တင်ပြခြင်းမဟုတ်ပဲ UMFCCI သို့ ပေးပို့သော တိုင်စာအပေါ် UMFCCI အနေဖြင့် စိစစ်တွေ့ရှိချက်အား ကော်မရှင်သို့ တင်ပြရန်သာလိုကြောင်း ရှင်းလင်းပြောကြားပါသည်။

ကော်မရှင်အစည်းအဝေးမှ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Vent D'est (Myanmar) Co., Ltd. နှင့် ဖက်စပ် နိုင်ငံခြားရင်းနှီးမြှုပ်နှံဖြင့် Manufacturer GFT Enterprise Co.,Ltd.တို့မှ CMPစနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန်နှင့် ခွင့်ပြုမိန့်ထုတ်ပေးရန် ဆုံးဖြတ်ပါသည်။

**၄။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် ဥရောပအာရှ အဖျော်ယမကာကုမ္ပဏီလီမိတက် (Europe & Asia Beverages Co., Ltd.) မှ ရေသန့်၊ နို့နှင့် ပဲနို့ မျိုးစုံ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ**

ကော်မရှင် အတွင်းရေးမှူး ညွှန်ကြားရေးမှူးချုပ် ဦးအောင်နိုင်ဦးက အမှာစာပါ အကြောင်းအရာအား ဖော်ပြလျှက် အဓိကအချက်များကို ကုမ္ပဏီမှ ဆွေးနွေးတင်ပြပေးရန် ဖိတ်ခေါ်ပါသည်။

ကုမ္ပဏီ၏ ဒါရိုက်တာ ဦးကျော်ဝင်းထွန်းက ရင်းနှီးမြှုပ်နှံမည့် လုပ်ငန်းအခြေအနေများနှင့် ဆောင်ရွက်မည့် လုပ်ငန်းစဉ်များကို power point ဖြင့် ရှင်းလင်းတင်ပြပါသည်။

ကော်မရှင်အဖွဲ့ဝင် ဒုတိယဝန်ကြီး ဗိုလ်မှူးချုပ်ကျော်ဇံမြင့်က မြေကိစ္စနှင့်ပတ်သက်၍ လယ်မြေဖြစ်သည့်အတွက် လယ်ယာမြေကို အခြားနည်းနှင့် ပြောင်းလဲအသုံးပြုရန် ခွင့်ပြုပေးထားသော်လည်း အခြားနည်းသုံးပြီး စက်မှုဇုန်ရန် အဖြစ် ပြောင်းလျှောက်ရန် လိုကြောင်း ပြောကြားရာ ကုမ္ပဏီ၏ ဒါရိုက်တာ ဦးကျော်ဝင်းထွန်းမှ စက်မှုဇုန်ရန် လျှောက်ထားဆဲဖြစ်ကြောင်း ရှင်းလင်းတင်ပြပါသည်။

ကော်မရှင်အဖွဲ့ဝင် ဒေါက်တာအောင်ထွန်းသက် မှ CSR စဉ်းစားသောပုံစံကို ကြိုဆိုကြောင်း၊ မူလတန်းကလေးတွေကို နို့နှင့် ပဲနို့တိုက်ရန် စီစဉ်ထားသည့်အပေါ် ကုန်ချော ၃ မျိုးအနက် ရေသန့်နဲ့ ပဲနို့သည် ကလေးများအတွက်သင့်တော်သော်လည်း အချိုရည်သည် အဆင်မပြေကြောင်း၊ CSR ကို Child Nutrition Program ရေးဆွဲကာ စက်ရုံနဲ့အနီးစပ်ဆုံး ရပ်ကွက် ပညာရေးဌာနမှ တာဝန်ရှိသူများနှင့်တိုင်ပင်ပြီး တစ်လတစ်ခါ၊ တစ်ပတ်တစ်ခါ ပုံမှန်လုပ်မည့် စီမံချက်ရေးဆွဲလိုက်ပါက ပို၍

ကောင်းမွန်ကြောင်း၊ အဆိုပါကိစ္စကို Budget ဆွဲ၍ CSR ၂% ၏ ဘောင်ထဲဝင်အောင်လုပ်ရန် အကြံပြုလိုကြောင်း၊ တစ်ကမ္ဘာလုံးက ကြည့်ကြတဲ့ Global Compact website တွင်ဝင်၍ တစ်ခါ တည်းလျှောက်ပါက UNGC အဖွဲ့ဝင်စာရင်းထဲပါသွားမည်ဖြစ်ကြောင်း၊ ကုမ္ပဏီအနေဖြင့်လည်း အခြား CSRလုပ်ရန်မလိုပဲ ပြီးသွားမည် ဖြစ်ကြောင်း ဆွေးနွေး ပြောကြားပါသည်။

ကော်မရှင်အဖွဲ့ဝင် ဒေါ်ခိုင်ခိုင်နွယ် မှ UMFCCI တွင်လည်း CSR အသင်းချုပ်ရှိကြောင်း၊ ဆက်သွယ်လျှင် ဝိုင်း၍ကူညီပေးမည်ဖြစ်ကြောင်း ဆွေးနွေးပြောကြားပါသည်။

ကော်မရှင်အဖွဲ့ဝင် သူရဦးသောင်းလွင် မှ အချိုရည်ထုတ်ပါက Special Consumption tax ကောက်မည်ဖြစ်၍ ကြိုတင်တွက်ချက်ထားရန်လိုကြောင်း၊ သို့မဟုတ်လျှင် ကောက်သည့် အချိန် တွင် တွက်ခြေမကိုက်ဖြစ်နိုင်ကြောင်း ဆွေးနွေးပြောကြားရာ ကုမ္ပဏီ၏ ဒါရိုက်တာ ဦးကျော်ဝင်းထွန်း က နို့၊ ပဲနို့နှင့် ရေသန့်သာ ထုတ်လုပ်မည် ဖြစ်ကြောင်း၊ ထုတ်ကုန်ထဲတွင် အချိုရည် မပါကြောင်း ရှင်း လင်းတင်ပြပါသည်။

ကော်မရှင်အဖွဲ့ဝင် ဒေါက်တာအောင်ထွန်းသက် က ကုန်ကြမ်းရရှိမှုကို မေးမြန်းရာ ကုမ္ပဏီ၏ ဒါရိုက်တာ ဦးကျော်ဝင်းထွန်းမှ ကုန်ကြမ်းအနေနဲ့ ပဲကို ကနေဒါမှ တင်သွင်းရမည်ဖြစ်ကြောင်း၊ ရေရှည်တွင်မူ တင်သွင်းရန် မဖြစ်နိုင်သောကြောင့် နောင်တွင် မြန်မာနိုင်ငံသို့ တင်သွင်း၍ မြန်မာ တောင်သူများ စိုက်ပျိုးနိုင်အောင် စီစဉ်ဆောင်ရွက်မည်ဖြစ်ပါကြောင်း၊ မြန်မာနိုင်ငံရှိ ပဲမျိုး များမှာ protein level အပြည့်မရခြင်း၊ အလုံးအရွယ်အစားမညီခြင်းတို့ကြောင့် ထုတ်လုပ်မှု process အတွက်အခက်အခဲရှိနိုင်၍ အမေရိကန် ကုမ္ပဏီနှင့်ဆက်သွယ်ထားကြောင်း ရှင်းလင်း တင်ပြခြင်း အပေါ် ကော်မရှင်အဖွဲ့ဝင် ဒေါက်တာအောင်ထွန်းသက် က ၎င်းကို CSR အနေဖြင့် သတ်မှတ်၍ ရကြောင်း၊ ကိုယ့်ကုန်ကြမ်းအား ပြည်တွင်းတွင် စိုက်ပျိုးနိုင်လျှင် နိုင်ငံခြားငွေသက်သာပြီး နိုင်ငံတော် အတွက် အကျိုးရှိနိုင်သည့်အပြင် အနီးအနားရှိ ရပ်ကွက်ကျေးရွာဖွံ့ဖြိုးရေးကိုလည်း အထောက်အကူ ဖြစ်စေကြောင်း ဆွေးနွေးပြောကြားပါသည်။

ကော်မရှင်ဒုတိယဥက္ကဋ္ဌ ပြည်ထောင်စုဝန်ကြီး ဦးဌေးအောင်က အဆောက်အဦ တည်ဆောက် မှု၊ ကုန်ကြမ်း အလုံအလောက် ရရှိနိုင်မှုတို့ကို မေးမြန်းပြီး ဒုဋ္ဌဝတီမြစ်ဘေးတွင် စက်ရုံဆောက်မည် ဖြစ်သောကြောင့် အညစ်အကြေးစွန့်ပစ်ခြင်းများကို ဂရုစိုက်သင့်ကြောင်း ဆွေးနွေးပြောကြားရာ ကုမ္ပဏီ၏ဒါရိုက်တာဦးကျော်ဝင်းထွန်းမှ အဆောက်အဦ တည်ဆောက်မှု အနေဖြင့် conceptual plan သာတင်ပြထားခြင်းဖြစ်ပြီး ဆောက်လုပ်မှုအားစတင်ခြင်းမရှိသေးကြောင်း၊ ဆောက်လုပ်ရေး ကာလကို (၂)နှစ်သတ်မှတ်ထားကြောင်း၊ ကုန်ကြမ်းအနေဖြင့် နို့ လုံလောက်စွာ ရရှိနိုင်ရန် နောင်ချိုမှ နို့စက်ရုံနှင့် ကျောက်ဆည်ရှိ နွားခြံများမှ source ရယူနိုင်ရန် ကြိုးစားသွားမည်ဖြစ်ပြီး မလုံလောက် ပါက နို့မှုန့်ကို အသုံးပြုမည်ဖြစ်ကြောင်း ၊ ပဲကုန်ကြမ်း အနေဖြင့် နောင်တွင် မြန်မာနိုင်ငံ၌ စိုက်ပျိုး အသုံးပြုနိုင်ရန် ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ ရေဆိုး၊ ရေညစ်များ အတွက် Waste Water Treatment System ပါရှိကြောင်း ရှင်းလင်းတင်ပြပါသည်။

ကော်မရှင်အစည်းအဝေးမှ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် ဥရောပအာရှ အဖျော်ယမကာကုမ္ပဏီလီမိတက် (Europe & Asia Beverages Co., Ltd.) မှ ရေသန့်၊ နို့နှင့် ပဲနို့ မျိုးစုံ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန်နှင့် ခွင့်ပြုမိန့် ထုတ်ပေးရန် ဆုံးဖြတ်ပါသည်။

**၅။ Eden Hotels & Resorts Co., Ltd. မှ နေပြည်တော် ဒက္ခိဏသီရိမြို့နယ်တွင် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ**

ကော်မရှင်အတွင်းရေးမှူး ညွှန်ကြားရေးမှူးချုပ် ဦးအောင်နိုင်ဦးက အမှာစာပါ အကြောင်းအရာအား ဖော်ပြလျက် အဓိကအချက်များကို ရှင်းလင်း တင်ပြပါသည်။

ကုမ္ပဏီ၏ ဒါရိုက်တာဖြစ်သူဦးဝဏ္ဏခိုင်က ရင်းနှီးမြှုပ်နှံမည့် လုပ်ငန်းအခြေအနေများနှင့် ဆောင်ရွက်မည့် လုပ်ငန်းစဉ်များကို power point ဖြင့်ရှင်းလင်းတင်ပြပါသည်။

ကော်မရှင်အတွင်းရေးမှူး ညွှန်ကြားရေးမှူးချုပ် ဦးအောင်နိုင်ဦးက ယခင်နိုင်ငံတော်အစီအစဉ်ဖြင့် လုပ်ခဲ့သည့် ဧည့်ဂေဟာများအနက် Eden နဲ့ပူးပေါင်းလုပ်မည့် project တစ်ရပ်ဖြစ်ကြောင်း၊ နိုင်ငံတော်ဧည့်ဂေဟာ (၃)ခုကိုပထမ Amara၊ ဒုတိယ Maxနှင့် တတိယ Eden တို့ကိုပေးခြင်းဖြစ်ကြောင်း၊ proposal နဲ့ပတ်သက်ပြီး နှိုင်းယှဉ်ကြည့်ပါက တစ်ခုနှင့်တစ်ခု သိသာ ထင်ရှားသည့်ကွာဟမှုမရှိကြောင်း၊ တည်ဆောက်ရေး ကာလအနေဖြင့် projectသည် ၇၅% ခန့်ပြီးစီး၍ ၂၅%ခန့်ကျန်နေသေးကြောင်း၊ proposal အရ ဆက်လက်ဆောင်ရွက်မည့် လုပ်ငန်းများ အတွက် တင်သွင်းမည့်ပစ္စည်းများတင်ပြထားချက် အပေါ် မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းမှ ထောက်ခံထားသည့် အရေအတွက်အတိုင်းသာ ဆက်လက်တင်သွင်းစေမှာ ဖြစ်ကြောင်း ဆွေးနွေးပြောကြားပါသည်။

ကော်မရှင်ဒုတိယဥက္ကဋ္ဌ ပြည်ထောင်စုဝန်ကြီး ဦးဒွေးအောင်က နေပြည်တော်စည်ပင်သာယာရေးကော်မတီ၏ မြေငှားသက်တမ်းကိုမေးမြန်းရာ ကုမ္ပဏီ၏ ဒါရိုက်တာဖြစ်သူ ဦးဝဏ္ဏခိုင် မှ နှစ် (၃၀)ဂရန် ရရှိထားကြောင်း ရှင်းလင်းတင်ပြရာ ကော်မရှင်အဖွဲ့ဝင် ဒုတိယဝန်ကြီး ဗိုလ်မှူးချုပ် ကျော်ဇံမြင့်က ရိုးရိုးဂရန်သာဖြစ်နေ၍ စက်မှုမြေငှားဂရန်ပြန်လျှောက်ရမည် ဖြစ်ကြောင်း ဆွေးနွေးတင်ပြပါသည်။

ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာနမှ ညွှန်ကြားရေးမှူး ဦးမျိုးမြင့်က နေပြည်တော်တွင် လက်ရှိဟိုတယ် ၆၃ လုံးနှင့် အခန်းပေါင်း ၅၀၉၇ ခန်းရှိကြောင်း၊ ဟိုတယ်များမှရရှိသော စာရင်းအရ ၂၀၁၄ခုနှစ် အတွင်းတွင် ပြည်တွင်းဧည့်သည် ၁၄၀၄၀၀ကျော်၊ ပြည်ပဧည့်သည် ၁၄၈၀၀၀ ကျော် လာရောက်တည်းခိုခဲ့ကြောင်း၊ ၂၀၁၅ခုနှစ်တွင်ယခင်နှစ်ထက် ဧည့်သည်တည်းခိုမှု ၁၆% တိုးတက် နေကြောင်း၊ နေပြည်တော်တွင် နိုင်ငံတကာအဆင့်ပွဲများ ကျင်းပနေသည့်အတွက် ယခုကဲ့သို့ ကမ္ဘာ့ အဆင့်မီ Hiltonနှင့်တွဲ၍ဟိုတယ်လုပ်ငန်း လုပ်ကိုင်ခြင်းကို ဂုဏ်ယူပါကြောင်း၊ ၎င်းတွင် ဝန်ထမ်း ဦးရေ ၂၂၅ဦး ရှိပြီး အခန်းအရေအတွက် ၂၀၂ခန်း ရှိမည်ဖြစ်၍ အခန်းအရေအတွက်နှင့် လိုက်ဖက် မည့်ဝန်ထမ်းဦးရေမှာ အနည်းဆုံး ၃၀၀ခန့် ရှိသင့်ကြောင်း ရှင်းလင်းတင်ပြပါသည်။

အထွေထွေ အရပ်ရပ် -၁၆
(ရုံးတွင်း စာအကျဉ်းချုပ် (သို့မဟုတ်) စာကြမ်းရေးရန်အတွက်)

ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဒီဇင်ဘာလ ၉ ရက်

အကြောင်းအရာ။ **မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ဥရောပအာရှအဖျော်ယမကာ ကုမ္ပဏီလီမိတက် (Europe & Asia Beverages Co., Ltd.) မှ ရေသန့်၊နို့၊ပဲနို့နှင့် အချိုရည် ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန်အဆိုပြုတင်ပြလာခြင်း ကိစ္စ**

၁။ အကွက်အမှတ်(၁၉)၊ ဆဲ့နှစ်ကိုင်း၊ ဦးပိုင်အမှတ် (၁၇၀၊၁၇၁၊ ၁၇၂/၁၊၁၇၅/၁၊၁၇၆၊ ၁၇၇၊ ၁၇၈၊ ၁၇၉/၁၊၁၇၉/၂) ဧရိယာ ၂၂.၆၈ ဧကနှင့် ဦးပိုင်အမှတ် (၁၆၆/၂၊ ၁၆၇၊၁၆၈/၂၊ ၁၆၉) ရှိ ဧရိယာ ၉.၀၉ဧက မြောက်ကိုင်းကျေးရွာအုပ်စု၊စဉ့်ကိုင်မြို့နယ်၊ ကျောက်ဆည်ခရိုင်၊ မန္တလေးတိုင်းဒေသကြီးရှိ (စုစုပေါင်းဧရိယာ ၃၁.၇၇ ဧက) ၁၂၈၅၆၈.၇၄ စတုရန်းမီတာတွင် နို့၊ ပဲနို့ရည် အမျိုးမျိုးနှင့်ရေသန့်ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြု တင်ပြလာခြင်းအား ၂၀၁၅ ခုနှစ် နိုဝင်ဘာလ ၂၇ ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၂၁/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေးမှ အဆိုပြုလုပ်ငန်းအား ခွင့်ပြုရန်နှင့် ခွင့်ပြုမိန့်ထုတ်ပေးရန် ဆုံးဖြတ်ခဲ့ပါသည်။

၂။ သို့ဖြစ်ပါ၍ အစည်းအဝေးဆုံးဖြတ်ချက်အရ သက်ဆိုင်ရာ ရင်းနှီးမြှုပ်နှံသူသို့ ထုတ်ပေးမည့် ခွင့်ပြုမိန့် (Permit) နှင့် ဆုံးဖြတ်ချက် (Decision) တို့အား ပြုစုတင်ပြအပ်ပါသည်။

(မြသူဇာ)
တွဲဖက်အတွင်းရေးမှူး

ဥက္ကဌ

၃။

ပုံစံ (မနသ-၂)

**ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော်**

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**

**ခွင့်ပြုမိန့်**

ခွင့်ပြုမိန့်အမှတ်၊ မနသ ****/ ၂၀၁၅ ၂၀၁၅ ခုနှစ် ဒီဇင်ဘာလ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂(ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်-

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဦးကျော်ဝင်းထွန်း

(ခ) **အဘအမည်** ဦးထွန်းဝင်း

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၁၃/လရန(နိုင်)၀၉၁၇၇၄

(ဃ) **နေရပ်လိပ်စာ** အမှတ်-၅-ခ၊ စစ်ကိုင်းလမ်း၊အမှတ်(၁၄)ရပ်ကွက်၊ မြကန်သာ အိမ်ရာ၊လှိုင်မြို့နယ်၊ ရန်ကုန်မြို့

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း** ဥရောပအာရှ အဖျော်ယမကာ ကုမ္ပဏီ လီမိတက် (Europe & Asia Beverages Company Limited)

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်းအမျိုးအစား** နို့၊ပဲနို့ရည်အမျိုးမျိုးနှင့်ရေသန့် ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** မန္တလေးတိုင်းဒေသကြီး၊ စဉ့်ကိုင်မြို့နယ်၊ ကျောက်ဆည်ခရိုင်၊ မြောက်ကိုင်းကျေးရွာအုပ်စု၊ ဆဲ့နှစ်ကိုင်း၊ အကွက်အမှတ်(၁၉)၊ ဦးပိုင် အမှတ်- ၁၆၆/၂ ၊ ၁၆၇၊ ၁၆၈/၂၊ ၁၆၉ ရှိ ဧရိယာ ၉.၀၉ ဧကနှင့် ဦးပိုင်အမှတ်- ၁၇၀၊ ၁၇၁၊ ၁၇၂/၁၊၁၇၅/၁၊၁၇၆၊၁၇၇၊၁၇၈၊ ၁၇၉/၁၊ ၁၇၉/၂ ရှိ ဧရိယာ ၂၂.၆၈ ဧက၊ စုစုပေါင်းဧရိယာ ၃၁.၇၇ ဧက

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ကျပ် ၄၈,၉၅၂.၈၆ သန်း(အမေရိကန်ဒေါ်လာ ၂၆.၂၃၆၄ သန်း အပါအဝင်)

(ဈ) **တည်ဆောက်မှုကာလ** ၂ နှစ်

**ဥက္ကဋ္ဌ**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**

အမိန့်ကြော်ငြာစာအမှတ်၊ / ၂၀၁၅ (မနသ)

၂၀၁၅ ခုနှစ် ဒီဇင်ဘာလ ရက်

၁။ Europe & Asia Beverages Company Limited. သည် ကုမ္ပဏီပိုင် အကွက်အမှတ် (၁၉)၊ ဦးပိုင်အမှတ်- ၁၇၀၊ ၁၇၁၊ ၁၇၂/၁၊ ၁၇၅/၁၊ ၁၇၆၊ ၁၇၇၊ ၁၇၈၊ ၁၇၉/၁၊ ၁၇၉/၂) ဧရိယာ ၂၂.၆၈ ဧကနှင့် ဦးပိုင်အမှတ်- ၁၆၆/၂၊ ၁၆၇၊ ၁၆၈/၂၊ ၁၆၉) ရှိ ဧရိယာ ၉.၀၉ဧက (စုစုပေါင်း ဧရိယာ ၃၁.၇၇ ဧက) ဆဲ့နှစ်ကိုင်း၊ မြောက်ကိုင်းကျေးရွာအုပ်စု၊ ကျောက်ဆည်ခရိုင်၊ စဉ့်ကိုင်မြို့နယ်၊ မန္တလေးတိုင်းဒေသကြီး တွင် နို့၊ ပဲနို့ရည်အမျိုးမျိုးနှင့် ရေသန့်ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီဆောင်ရွက် ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးကျော်ဝင်းထွန်း(အဘ-ဦးထွန်းဝင်း) မှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု တင်ပြချက်အား ၂၀၁၅ ခုနှစ် နိုဝင်ဘာလ ၂၇ ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၂၁/၂၀၁၅)ကြိမ်မြောက် အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။

၂။ အဆိုပါ အစည်းအဝေး ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂(ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Europe & Asia Beverages Co., Ltd. (ဥရောပအာရှ အဖျော်ယမကာ ကုမ္ပဏီ လီမိတက်)အား နို့၊ပဲနို့ရည်အမျိုးမျိုးနှင့် ရေသန့်ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- / ၂၀၁၅ ကို ထုတ်ပေးလိုက်သည်။

၃။ Europe & Asia Beverages Co., Ltd. (ဥရောပအာရှ အဖျော်ယမကာ ကုမ္ပဏီ လီမိတက်) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၁၁) အရ အောက်ပါ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် သက်သာခွင့် များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က) အရ ထုတ်လုပ်မှုလုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း (၅) နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်

ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည်ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(ဃ) အရ လုပ်ငန်းမှ ထုတ်လုပ်သည့် ပစ္စည်းကို ပြည်ပသို့ တင်ပို့ ရောင်းချလျှင် ထိုသို့ တင်ပို့ရောင်းချ၍ ရရှိသော အမြတ်ငွေပေါ်တွင် ၅၀ ရာခိုင်နှုန်း အထိ ဝင်ငွေခွန် သက်သာခွင့်ပြုသည်။

(ဃ) ဥပဒေပုဒ်မ ၂၀(စ) အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ်ပေါ်ပေါက်သည့်အရှုံးငွေကို ယင်းသို့အရှုံးပေါ်ပေါက်သည့် နှစ်မှ စ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှုအခြေအနေကိုဖော်ပြလျက်ဤကော်မရှင်သို့တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဆ) အရ လုပ်ငန်းစတင်တည်ဆောက်မှုကာလအတွင်း အမှန်တကယ် အသုံးပြုရန်လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင်တန်ဆာပလာ၊ စက်ကိရိယာအစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြား ပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၂၀(ဇ) အရ ဝင်ငွေခွန်စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်း စက်ကိရိယာ၊ အဆောက်အအုံ သို့မဟုတ် လုပ်ငန်းသုံးအခြားမတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်ကသတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုး လျော့တွက်နှုန်းများ အတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုးလျော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုး လျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဆ) ဥပဒေပုဒ်မ ၂၀(ည) အရ ရင်းနှီးမြှုပ်နှံမှု ပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ်အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင်တန်ဆာပလာများ၊ စက်ကိရိယာအစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြား

ပြည်တွင်းအခွန်အကောက်များကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဈ) ဥပဒေပုဒ်မ ၂၀(ဠ) အရ ပြည်ပသို့တင်ပို့ရန် ထုတ်လုပ်သည့်ပစ္စည်းများအပေါ် ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၄။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀(ဆ) အရ ပြည်ပမှ တင်သွင်းသည့် ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင် တန်ဆာပလာများ၊ စက်ကိရိယာအစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့်ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများသင့်မြတ်မှု စသည်တို့နှင့်စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် လိုက်နာဆောင်ရွက်ရမည်။

၅။ Europe & Asia Beverages Co., Ltd. (ဥရောပအာရှ အဖျော်ယမကာ ကုမ္ပဏီ လီမိတက်) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မူလ အဆိုပြုလွှာ၌ ဖော်ပြထားသည့် **ထုတ်လုပ်မှုရည်မှန်းချက်များကိုအနိမ့်ဆုံးရည်မှန်းချက်များ** အဖြစ် ထားရှိ ဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၆။ Europe & Asia Beverages Co., Ltd.(ဥရောပအာရှ အဖျော်ယမကာ ကုမ္ပဏီ လီမိတက်) သည် ဤအဆိုပြုလုပ်ငန်း၏စာရင်းများကို သီးခြားပြုစုထား ရှိရမည်။

၇။ အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်း သတ်မှတ်ချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၈။ Europe & Asia Beverages Co., Ltd. (ဥရောပအာရှ အဖျော်ယမကာ ကုမ္ပဏီ လီမိတက်) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှု မရှိစေရေး(သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေနိုင်ရေးတို့အတွက် ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination-IEE) ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲ မည့်ရန်ပုံငွေ စသည်တို့ပါ ဝင်သည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးစီမံချက် (Environmental Management Plan-EMP) ကို

ရေးဆွဲတင်ပြပြီး ယင်းဆောင်ရွက်ပြီးစီးမှု အခြေအနေကို ကော်မရှင် နှင့် သက်ဆိုင်ရာ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာနတို့သို့ ပေးပို့ အစီရင်ခံရမည်။

၉။ Europe & Asia Beverages Co., Ltd. (ဥရောပအာရှ အဖျော်ယမကာ ကုမ္ပဏီ လီမိတက်) ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်းဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှုများ မဖြစ်ပေါ်စေရေးအတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီ အမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး နိုင်ငံတော်မှ ပြဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးမူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့် အညီ လိုက်နာဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၀။ Europe & Asia Beverages Co., Ltd. (ဥရောပအာရှ အဖျော်ယမကာ ကုမ္ပဏီ လီမိတက်) သည် ထုတ်လုပ်မှုနည်းပညာ၊ ထုတ်လုပ်မှုအရည်အသွေး၊ Trade Mark ကုန်ပစ္စည်း အမှတ်တံဆိပ် အမည်/အမှတ်အသား၊ ဈေးကွက်ပိုင်းဆိုင်ရာတို့နှင့် စပ်လျဉ်း၍ အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရမည်။ ၎င်းအပြင် သက်ဆိုင်ရာဌာန များ၏ ညွှန်ကြားချက် များ အတိုင်း လိုက်နာဆောင်ရွက်ရမည်။

၁၁။ Europe & Asia Beverages Co., Ltd. (ဥရောပအာရှ အဖျော်ယမကာ ကုမ္ပဏီ လီမိတက်) သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ် ထားသော တည်ဆဲ စည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များကို လိုက်နာမှုမရှိကြောင်း စစ်ဆေး တွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည်ရုပ်သိမ်းသည်အထိ အရေးယူခြင်းခံရမည်။

၁၂။ Europe & Asia Beverages Co., Ltd. (ဥရောပအာရှ အဖျော်ယမကာ ကုမ္ပဏီ လီမိတက်) မှ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့်ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၀)၊ ပုဒ်မ၁၉(ဂ)ပါ သတ်မှတ်ချက် နှင့်အညီ ဤကော်မရှင်သို့ သီးခြားတင်ပြလျှောက်ထားရမည်။ ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေးဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထား ဆောင်ရွက်ရမည်။

လုပ်ငန်းခွင်သာယာရေးနှင့် စာရင်းဇယား စနစ်တကျရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့် အတိုင်း စီစဉ် ဆောင်ရွက်ရမည်။

၁၃။ Europe & Asia Beverages Co., Ltd. (ဥရောပအာရှ အဖျော်ယမကာ ကုမ္ပဏီ လီမိတက်) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ မီးဘေးအန္တရာယ် စသည်များ မဖြစ်ပေါ်စေရေးအတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။ ထို့အပြင် ရေသိုလှောင်ကန်၊ မီးသတ်ဆေးဘူးများကဲ့သို့ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်မှု ဆောင်ရွက်ချက်များကို ဆောင်ရွက်ရမည်ဖြစ်ပြီး မီးငြိမ်းသတ်ရေး လုပ်ငန်းသုံး ပစ္စည်းများ အသုံးပြုတတ်စေရန်အတွက် သင်တန်းများပေးရမည်။

၁၄။ Europe & Asia Beverages Co., Ltd.(ဥရောပအာရှ အဖျော်ယမကာ ကုမ္ပဏီ လီမိတက်)သည် ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ်/တိုင်းဒေသကြီး စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင်ထားရှိ ဆောင်ရွက်ရမည်။

၁၅။ Europe & Asia Beverages Co., Ltd. (ဥရောပအာရှ အဖျော်ယမကာ ကုမ္ပဏီ လီမိတက်) သည် ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လ အတွင်း ဤ ကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်းအကောင်အထည်ဖော်မှု အခြေအနေများ ကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃) လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ် စတင်ဆောင်ရွက်သည့်နေ့ရက်ကို စီးပွားဖြစ်စတင်ပြီး (တစ်)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၆။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် နေရပ်ဒေသလိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်) တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၇။ Europe & Asia Beverages Co., Ltd. (ဥရောပအာရှ အဖျော်ယမကာ ကုမ္ပဏီ လီမိတက်) သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့် သက်ဆိုင်ရာဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲစည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များကို လိုက်နာရမည်။

၁၈။ Europe & Asia Beverages Co., Ltd. (ဥရောပအာရှ အဖျော်ယမကာ ကုမ္ပဏီလီမိတက်) သည်အဆိုပြုလုပ်ငန်းအား ကျန်းမာရေးဦးစီးဌာန၏ ထောက်ခံချက်၊ မြန်မာနိုင်ငံအစားအသောက်နှင့် ဆေးဝါးကွပ်ကဲရေး ဦးစီးဌာနတို့၏ ထောက်ခံချက်တို့ကို ရယူဆောင်ရွက်ရမည်။

၁၉။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်သဖြင့် မည်သည့်နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြားအဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်းမရှိစေရ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးထားသောခွင့်ပြုမိန့်၊ သက်ဆိုင်ရာဌာနများမှ ထုတ်ပေးထားသော လုပ်ငန်းလိုင်စင်များနှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှတင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့်လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ အဆိုပြုလုပ်ငန်းကို နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြားအဖွဲ့အစည်းကပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့်၊ လုပ်ငန်းလိုင်စင်များနှင့် ပြည်ပမှ တင်သွင်းသည့်ပစ္စည်းများကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း၊ ရောင်းချကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၃၂ (င) အရ နောင်တွင်မည်သည့်ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စီးပွားရေးလုပ်ငန်းစာရင်း၌ ထည့်သွင်းသည်အထိ အရေးယူခြင်းခံရမည်။

၂၀။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

(ဇေယျာအောင်)

ဥက္ကဋ္ဌ

စာအမှတ်၊ ရက-၂ / မ- ၂၁၈ / ၂၀၁၅ (                )

ရက်စွဲ ၊ ၂၀၁၅ ခုနှစ် ဒီဇင်ဘာလ ရက်

**ဖြန့်ဝေခြင်း -**

သမ္မတဦးစီးရုံး

ဒုတိယသမ္မတ(၁)ဦးစီးရုံး

ဒုတိယသမ္မတ(၂)ဦးစီးရုံး

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ

ပြည်ထဲရေးဝန်ကြီးဌာန

ဆက်သွယ်ရေးနှင့် သတင်းအချက်အလက် နည်းပညာဝန်ကြီးဌာန

ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန

လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန

စက်မှုဝန်ကြီးဌာန

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန

ကျန်းမာရေးဝန်ကြီးဌာန

ဘဏ္ဍာရေးဝန်ကြီးဌာန

အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန

ဆောက်လုပ်ရေးဝန်ကြီးဌာန

အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန

မြန်မာနိုင်ငံတော် ဗဟိုဘဏ်

ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး

ညွှန်ကြားရေးမှူးချုပ်၊ မီးသတ်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆေးဝါးလုပ်ငန်း

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့်အမျိုးသား မှတ်ပုံတင်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်မှု မြှင့်တင်ရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အစားအသောက်နှင့် ဆေးဝါးကွပ်ကဲရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ မီးသတ်ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း

ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံစက်မှုကုန်ထုတ်လုပ်သူများအသင်း

ဥက္ကဋ္ဌ၊ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်

အုပ်ချုပ်မှုဒါရိုက်တာ၊ Europe & Asia Beverages Co., Ltd. (ဥရောပအာရှ အဖျော်ယမကာ ကုမ္ပဏီလီမိတက်)

ပုံစံ (မနသ-၂)

# ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော်
## မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
## ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ်၊ မနသ ****/ ၂၀၁၅ — ၂၀၁၅ ခုနှစ် ဒီဇင်ဘာလ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂(ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်-

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဦးကျော်ဝင်းထွန်း

(ခ) **အဘအမည်** ဦးထွန်းဝင်း

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၁၃/လရန(နိုင်)၀၉၁၇၇၄

(ဃ) **နေရပ်လိပ်စာ** အမှတ်-၅-ခ၊ စစ်ကိုင်းလမ်း၊အမှတ်(၁၄)ရပ်ကွက်၊ မြကန်သာ အိမ်ရာ၊လှိုင်မြို့နယ်၊ ရန်ကုန်မြို့

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း** ဥရောပအာရှ အဖျော်ယမကာ ကုမ္ပဏီ လီမိတက် (Europe & Asia Beverages Company Limited)

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်းအမျိုးအစား** နို့၊ပဲနို့ရည်အမျိုးမျိုးနှင့်ရေသန့် ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** မန္တလေးတိုင်းဒေသကြီး၊ စဉ့်ကိုင်မြို့နယ်၊ ကျောက်ဆည်ခရိုင်၊ မြောက်ကိုင်းကျေးရွာအုပ်စု၊ဆဲ့နှစ်ကိုင်းဦးပိုင်အမှတ်- ၁၆၆/၂ ၊ ၁၆၇၊ ၁၆၈/၂၊ ၁၆၉ ရှိ ဧရိယာ ၉.၀၉ ဧကနှင့် ဦးပိုင်အမှတ်- ၁၇၀၊ ၁၇၁၊ ၁၇၂/၁၊ ၁၇၅/၁၊ ၁၇၆၊ ၁၇၇၊ ၁၇၈၊ ၁၇၉/၁၊ ၁၇၉/၂ ရှိ ဧရိယာ ၂၂.၆၈ ဧက၊ (စုစုပေါင်း ဧရိယာ ၃၁.၇၇ ဧက)၊ အကွက်အမှတ်(၁၉)၊

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ကျပ် ၄၈,၉၅၂.၈၆ သန်း(အမေရိကန်ဒေါ်လာ ၂၆.၂၃၆၄ သန်း အပါအဝင်)

(ဈ) **တည်ဆောက်မှုကာလ** ၂ နှစ်

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အထွေထွေ အရပ်ရပ် -၁၆
(ရုံးတွင်း စာအကျဉ်းချုပ် (သို့မဟုတ်) စာကြမ်းရေးရန်အတွက်)

ရက်စွဲ၊ ၂၀၁၅ ခုနှစ် အောက်တိုဘာလ ၂၉ ရက်

အကြောင်းအရာ။ **မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ဥရောပအာရှအဖျော်ယမကာ ကုမ္ပဏီလီမိတက် (Europe & Asia Beverages Co., Ltd.) မှ ရေသန့်၊နို့၊ပဲနို့နှင့် အချိုရည် ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန်အဆိုပြုတင်ပြလာခြင်း ကိစ္စ**

P1.3041
30/10

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်စပ်လျဉ်း၍ **ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်**(မူကြမ်း) တို့အား မူဝါဒနှင့် ဥပဒေဌာနခွဲ သို့ တင်ပြနိုင်ပါရန် ပြုစုတင်ပြအပ်ပါသည်။

**ရေးသွင်းသူ** **စိစစ်သူ**

(ဖြူဖြူကို) (စန္ဒာအောင်)
အကြီးတန်းလက်နှိပ်စက်ရိုက် လက်ထောက်ညွှန်ကြားရေးမှူး

**ဒုတိယညွှန်ကြားရေးမှူး**

၂။ Europe & Asia Beverages Co., Ltd [illegible] PL Section [illegible] Permit & Decision [illegible]

[signature]
၂၉/၁၀

ညွှန်ကြားရေးမှူး
၃။ [illegible]

[signature]
၂၉/၁၀

ဌာနမှူး - (PL)
၄၊ Europe & Asia Beverages Co., Ltd. [illegible] ဆုံးဖြတ်ချက် (မူကြမ်း) တို့အား [illegible]

[signature]
30/10/15

ပုံစံ (မနသ-၂)

# ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော်
## မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
## ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ်၊ မနသ ****/ ၂၀၁၅ ၂၀၁၅ ခုနှစ် နိုဝင်ဘာလ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂(ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်-

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဦးကျော်ဝင်းထွန်း

(ခ) **အဘအမည်** ဦးထွန်းဝင်း

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၁၃/လရန(နိုင်)၀၉၁၇၇၄

(ဃ) **နေရပ်လိပ်စာ** အမှတ်-၅-ခ၊ စစ်ကိုင်းလမ်း၊အမှတ်(၁၄)ရပ်ကွက်၊ မြကန်သာ အိမ်ယာ၊လှိုင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း** ဥရောပအာရှ အဖျော်ယမကာ ကုမ္ပဏီ လီမိတက် (Europe & Asia Beverages Company Limited)

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား** ရေသန့် ၊ နို့ ၊ ပဲနို့ နှင့်အချိုရည် ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** အကွက်အမှတ်(၁၉) ၊ ဦးပိုင်အမှတ်- ၁၇၀၊ ၁၇၁၊ ၁၇၂/၁၊ ၁၇၅/၁၊ ၁၇၆၊ ၁၇၇၊ ၁၇၈၊ ၁၇၉/၁၊ ၁၇၉/၂ ရှိ ဧရိယာ ၂၂.၆၈ ဧက နှင့် ဦးပိုင် အမှတ်- ၁၆၆/၂ ၊ ၁၆၇၊ ၁၆၈/၂၊ ၁၆၉ ရှိ ဧရိယာ ၉.၀၉ ဧက (စုစုပေါင်း ဧရိယာ ၃၁.၇၇ ဧက) ဆဲယာ်နှစ်ကိုင်း၊မြောက်ကိုင်းကျေးရွာအုပ်စု၊ကျောက်ဆည်ခရိုင်၊စဉ့်ကိုင်မြို့နယ်၊ မန္တလေးတိုင်းဒေသကြီး

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ကျပ် ၄၈,၉၅၂.၈၆ သန်း(အမေရိကန်ဒေါ်လာ ၂၆.၂၃၆၇ သန်း အပါအဝင်)

(ဈ) **တည်ဆောက်မှုကာလ** ၂ နှစ်

(ည) **ရင်းနှီးမြှုပ်နှံခွင့်ပြုသည့်သက်တမ်း** ၅၀ နှစ်

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရေးဆွဲပြီးဖြစ်ကာ အဆိုပြုချက်တွင် Processing Flow Chart တင်ပြထားပါကြောင်း ရှင်းလင်းတင်ပြပါသည်။

အစားအသောက်နှင့် ဆေးဝါးကွပ်ကဲရေး ဦးစီးဌာန ဦးစီးအရာရှိ ဒေါက်တာဖြိုးမာန်သက်ဦးက ကုမ္ပဏီမှ ပဲနို့အတွက်ပဲပိစပ်ကုန်ကြမ်းကို ပြည်ပမှတင်သွင်းမည်ဟုပြောသဖြင့် ကျန်ကုန်ကြမ်းများ ပြည်ပမှ တင်သွင်းရန်ရှိ-မရှိသိလိုကြောင်း၊ ပြည်ပမှကုန်ကြမ်းများတင်သွင်းမည်ဆိုပါက မိမိတို့ဌာနသို့လျှောက်ထား၍ ခွင့်ပြုချက်ရယူရန်လိုပြီး မည်သည့်နိုင်ငံမှ တင်သွင်းမည်ဆိုသည်ကို ဖော်ပြပေးရန်လိုကြောင်း၊ ရေသန့်ထုတ်လုပ်ပါကလည်း ဌာနမှထောက်ခံချက်ရယူခြင်းမပြုဘဲ ဈေးကွက်သို့ ဖြန့်ဝေခြင်းမပြုရန် ဆွေးနွေးပြောကြားပါသည်။

မြန်မာ့ဆေးဝါးလုပ်ငန်း အထွေထွေမန်နေဂျာ ဦးကျော်ငြိမ်းက ကုမ္ပဏီသည် ပဲနို့ကို ပဲပိစပ်မှထုတ်လုပ်မည်ဖြစ်ပြီး နို့ထုတ်လုပ်ရာ၌ နွားနို့နှင့်နို့မှုန့် မည်သည်ကို အသုံးပြုမည်ကိုသိလိုကြောင်း၊ နို့မှုန့်အသုံးပြုမည်ဆိုပါက မည်သည့်နိုင်ငံမှတင်သွင်းမည်ကိုသိလိုပြီး နို့မှုန့်အသုံးပြုခြင်းမှာ အန္တရာယ် အနည်းငယ်ရှိကြောင်း၊ ကုမ္ပဏီအနေဖြင့် စက်ရုံတည်ဆောက်ရန် ပြည်ပမှစက်ပစ္စည်းများ တင်သွင်းမည်ဖြစ်၍ မည်သည့်လုပ်ငန်းစဉ်အတွက် မည်သည့်စက်အမျိုးအစား အသုံးပြုမည်ကို တင်ပြရန်လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန လက်ထောက်ညွှန်ကြားရေးမှူး ဦးမြင့်ခိုင်က လုပ်ငန်းဆောင်ရွက်မည့် မြေဧရိယာများစုစုပေါင်း (၃၁.၇၇) ဧကမှာ ယခင်ကလယ်ယာမြေများဖြစ်ပြီး အစိုးရမှ အခြားနည်းဖြင့် အသုံးပြုခွင့်ပြုထားသဖြင့် လန/၃၉ ရရှိထားသည့် မြေများဖြစ်ကြောင်း၊ အဆိုပါမြေများကို စက်မှုဇုန်ရရှိရန် လျှောက်ထားဆဲဖြစ်ပြီး လုပ်ငန်းသက်တမ်းကို ကနဦး (၅၀)နှစ် နှင့် သက်တမ်းတိုး (၁၀)နှစ် (၂)ကြိမ် တင်ပြထားသည်ကိုတွေ့ရကြောင်း၊ လုပ်ငန်းသက်တမ်းကို စက်မှုဇုန်တွင်ပါရှိသည့်သက်တမ်းနှင့်ကြည့်ရှု၍ မြေဂရန်ရရှိအောင် ဆက်လက်ဆောင်ရွက်ရန်လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

ရန်ကုန် လျှပ်စစ်ဓာတ်အားပေးရေး ကော်ပိုရေးရှင်း လက်ထောက်အထွေထွေမန်နေဂျာ ဦးမောင်ကိုက လုပ်ငန်းဆောင်ရွက်မည့်စက်ရုံတွင် Transformer KVA မည်မျှတပ်ဆင်မည်ကိုသိလိုကြောင်း ဆွေးနွေးပြောကြားပါသည်။

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန ဒုတိယညွှန်ကြားရေးမှူး ဦးသိန်းဆွေက ပြည်ပမှတင်သွင်းမည့် ရုံးသုံးပစ္စည်းစာရင်းတွင် 1250 KVA မီးစက် (၄)လုံး တင်သွင်းမည်ဟု ဖော်ပြထားသဖြင့် အဆိုပါ မီးစက်များအတွက် မှတ်ပုံတင်လျှောက်ထားရမည်ဖြစ်ကြောင်း ဆွေးနွေးပြောကြားပါသည်။

အကောက်ခွန်ဦးစီးဌာန ညွှန်ကြားရေးမှူး ဦးကြည်ဦးက ပြည်ပမှ အစားအသောက်ကုန်ကြမ်းများ တင်သွင်းပါက အစားအသောက်နှင့် ဆေးဝါးကွပ်ကဲရေးဦးစီးဌာန၏ ထောက်ခံချက် ပူးတွဲတင်ပြရန်လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

ပြည်တွင်းအခွန်များဦးစီးဌာန ဒုတိယညွှန်ကြားရေးမှူး ဦးအောင်သူထူးက စီးပွားရေးဆိုင်ရာတွက်ချက်မှုများတွင် ကုန်သွယ်လုပ်ငန်းခွန် ၅% ထည့်သွင်းတွက်ချက်ထားသည်ကို တွေ့ရကြောင်း၊ ၂၀၁၅ ခုနှစ် ပြည်ထောင်စုအခွန်အကောက်ဥပဒေအရ ဂျုံ၊ ဂျုံမှုန့် တင်သွင်းပါက အခွန်ကင်းလွတ်ခွင့် ရှိသော်လည်း အဆိုပါအခွန်ကင်းလွတ်ခွင့်၌ နို့၊ နို့မှုန့်နှင့် ပဲနို့မပါသော်လည်း ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့်ပေးသင့်

သည့် ကုန်စည်ဟုယူဆထားပါကြောင်း၊ ရေသန့်နှင့်အချိုရည် ထုတ်လုပ်မည်ဖြစ်၍ ကုန်သွယ်လုပ်ငန်းခွန် ၅% ထည့်သွင်းတွက်ချက်ရမည်ဖြစ်ကြောင်း၊ လုပ်ငန်းဆောင်ရွက်မည့်မြေကို တန်ဖိုးသင့်၍ ရင်းနှီးမြှုပ်နှံမှုထဲသို့ ထည့်ဝင်ထားသည်ကိုတွေ့ရသဖြင့် အကြံပြုလိုသည်မှာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်ရသည်ဖြစ်စေ၊မရသည်ဖြစ်စေ ရှယ်ယာစုထည့်ထား၍ အခွန်ရှင်းလင်းပေးရန်လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန ဒုတိယညွှန်ကြားရေးမှူး ဦးဇော်မိုးက ကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းမှာ ရေသန့်၊ ပဲနို့၊ နို့နှင့် အချိုရည်ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းဖြစ်၍ ကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်း(Initial Enviromental Examination-IEE) ရေးဆွဲရန်လိုပြီး အဆိုပါအစီရင်ခံစာအရ လိုအပ်ပါက ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assess -ment-EIA) ရေးဆွဲတင်ပြရန်လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် တွဲဖက်အတွင်းရေးမှူး ဒေါ်မြသူဇာက ပြည်ပမှတင်သွင်းမည့် မော်တော်ယာဉ်စာရင်းတွင် လူစီးမော်တော်ယာဉ်များ ပါဝင်ပါက အခွန်ပေးဆောင်၍ တင်သွင်းရမည်ဖြစ်ပြီး ပစ္စည်းအမျိုးအစားများကို သေချာစွာ ဖော်ပြပေးရန်လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

အဆိုပြုချက်စိစစ်ရေးအဖွဲ့ အဖွဲ့ခေါင်းဆောင် ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန ညွှန်ကြားရေးမှူးချုပ် ဦးအောင်နိုင်ဦးက ပြည်ပမှ လုပ်ငန်းသုံးမော်တော်ယာဉ်များအား အခွန်ကင်းလွတ်ခွင့်ဖြင့် တင်သွင်းခွင့်ပြုပါကြောင်း၊ လုပ်ငန်းဆောင်ရွက်မည့် မြေများနှင့်ပတ်သက်၍ စက်မှုမြေဂရန်ရရှိအောင် မြန်မြန်ဆောင်ရွက်ရန်လိုကြောင်း၊ နိုင်ငံသားက မိမိကိုယ်ပိုင်မြေပေါ်တွင် လုပ်ငန်းဆောင်ရွက်ပါက လုပ်ငန်းသက်တမ်းဖော်ပြရန်မလိုဘဲ မြေဂရန်သက်တမ်းပေါ်မူတည်၍ ရာသက်ပန်လုပ်ကိုင်နိုင်ပါကြောင်း၊ လုပ်ငန်းဆောင်ရွက်မည့် စဥ့်ကိုင်မြို့နယ်ပတ်ဝန်းကျင်မှာ နို့ထုတ်သည့်နေရာဖြစ်၍ ဖြစ်နိုင်ပါက အနာဂါတ်တွင် လုပ်ငန်းဆောင်ရွက်ရာ၌ ပြည်တွင်းမှထွက်ရှိသည့် နို့များကိုသာ အသုံးပြုစေလိုကြောင်း၊ လက်ရှိတွင် နွားမွေးမြူသည့်ခြံများမှာ အရှုံးပေါ်နေကြ၍ ယခုလုပ်ငန်းလုပ်ကိုင်ရာ၌ ၎င်းတို့ခြံမှထွက်ရှိသည့် နို့များကိုဝယ်ယူအသုံးပြုပါက ၎င်းတို့အတွက်လည်း အကျိုးရှိနိုင်မည်ဖြစ်ကြောင်း ဆွေးနွေးပြောကြားပါသည်။

ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန ဒုတိယညွှန်ကြားရေးမှူးချုပ် ဒေါ်ချိုချိုဝင်း က ထုတ်လုပ်မည့်ပစ္စည်းများအတွက် ဗူးအဖုံးများကို ယခုစက်ရုံမှ တစ်ခါတည်း ထုတ်လုပ်ရန်ရှိ-မရှိ သိလိုပြီး အဆိုပါပစ္စည်းများကို မည်သည့်ကုန်အမှတ်တံဆိပ်တပ်ဆင်မည်ကိုသိလိုကာ မှတ်ပုံတင်ပြီးခြင်းရှိ-မရှိသိလိုကြောင်း၊ လက်ရှိတင်ပြထားရာတွင် အမှတ်တံဆိပ် (၂)ခုတွေ့ရှိရကြောင်း ဆွေးနွေးပြောကြားပါသည်။

ကုမ္ပဏီ၏ဒါရိုက်တာ ဦးကျော်ဝင်းထွန်းက ရှင်းလင်းတင်ပြရာတွင် လုပ်ငန်းဆောင်ရွက်ရာ၌ အသုံးပြုမည့်ကုန်ကြမ်းပစ္စည်းအများစုကို ပြည်ပမှတင်သွင်းမည်ဖြစ်ပြီး ပဲပိစပ်ကို ကနေဒါနိုင်ငံနှင့် အမေရိကန်နိုင်ငံတို့မှဝယ်ယူပြီး စင်္ကာပူနိုင်ငံရှိစက်ရုံမှတစ်ဆင့် တင်သွင်းမည်ဖြစ်ကြောင်း၊ Packing Material မှာ Tetra Pack ဖြစ်၍ ပြည်ပမှတင်သွင်းမည်ဖြစ်ကြောင်း၊ နို့မှုန့်ကို ကနေဒါနိုင်ငံရှိ ကမ္ဘာ့မြေပေါ်တွင် နို့မှုန့်ထုတ်လုပ်မှုနှင့်ပတ်သက်၍ နာမည်ကြီးကုမ္ပဏီတစ်ခုမှ တင်သွင်းမည်ဖြစ်ပြီး ပြည်တွင်းနို့ farm မှ ရရှိနိုင်ပါကလည်း ဝယ်ယူအသုံးပြုမည်ဖြစ်ကြောင်း၊ ယခုနောင်ချိုမြို့တွင် နို့ farm တစ်ခု တည်ထောင်ထားသည်ဟုကြားသိရပါကြောင်း၊ အဆိုပြုချက်တွင် Processing Flow Chart တင်ပြထားပြီး မည်သည့်လုပ်ငန်းစဉ်အတွက် မည်သည့်စက်အမျိုးအစား အသုံးပြုမည်ဆိုသည်မှာ မပါသေး၍ တင်ပြပေးမည်ဖြစ်ကြောင်း၊

စက်ရုံတွင် လျှပ်စစ်ဓာတ်အား ၁၀ မဂ္ဂါဝပ် သုံးစွဲမည်ဟု လျှပ်စစ်ဌာနသို့ လျှောက်ထားမည်ဖြစ်ကြောင်း၊ ပြည်ပမှတင်သွင်းမည့် 1250 KVA မီးစက် (၄)လုံးအတွက် မှတ်ပုံတင်လျှောက်ထားမည်ဖြစ်ကြောင်း၊ ပဲနို့နှင့် နို့အတွက် ပြည်ပမှ စက္ကူဗူးနှင့်ပိုက်များတင်သွင်းမည်ဖြစ်ပြီး ရေသန့်အတွက်ဗူးများကို ယခုစက်ရုံမှထုတ်လုပ်မည်ဖြစ်ကြောင်း၊ ပဲနို့နှင့်နို့အတွက် ကုန်အမှတ်တံဆိပ်မှာ "Vito" ဖြစ်ပြီး ရေသန့်အတွက် ကုန်အမှတ်တံဆိပ်မှာ "ထးiα" ဖြစ်ကြောင်း၊ အဆိုပြုချက်တွင် လိုအပ်ချက်များနှင့် အခြားပြင်ဆင် တင်ပြပေးရန်ရှိသည်များကို ပြန်လည်ပြင်ဆင် တင်ပြပေးမည်ဖြစ်ကြောင်း ရှင်းလင်းတင်ပြပါသည်။

အစည်းအဝေးမှ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် ဥရောပအာရှ အဖျော်ယမကာ ကုမ္ပဏီ လီမိတက် ရေသန့်၊ နို့၊ ပဲနို့နှင့် အချိုရည် ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စအား အောက်ပါ အတိုင်း ဆုံးဖြတ်ပါသည်-

(က) လုပ်ငန်းစဉ်အလိုက် အသုံးပြုမည့် စက်ပစ္စည်း အမျိုးအစားတင်ပြရန်။ ✓

(ခ) စီးပွားရေးဆိုင်ရာ တွက်ချက်မှုတွင် ထုတ်လုပ်သည့်ကုန်စည်အလိုက် ပေးဆောင်ရမည့် ကုန်သွယ်လုပ်ငန်းခွန် ၅ % ထည့်သွင်းတွက်ချက် ဖော်ပြရန်။ ✓

(ဂ) သဘောထားများစုံလင်ပြီး လိုအပ်ချက်များ ပြင်ဆင်တင်ပြလာပါက ကော်မရှင် အစည်းအဝေးသို့ တင်ပြရန်။ ✓

**၁၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် စကြာဝဠာဘုရင်(ဆောက်လုပ်ရေး)ကုမ္ပဏီလီမိတက်မှ တစ်နေ့လျှင် ၇၅ တန်ကျ ပျော့ဖတ်နှင့်စက္ကူစက်ရုံ တည်ဆောက်၍ ပျော့ဖတ်နှင့်ထုတ်ပိုးစက္ကူ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ**

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာန ဒုတိယညွှန်ကြားရေးမှူး ဒေါ်မီမီအောင် က အမှာစာကို ဖတ်ကြားပြီးကုမ္ပဏီမှ ရှင်းလင်းတင်ပြရန် ဖိတ်ခေါ်ပါသည်။

ကုမ္ပဏီ၏ အကြံပေး ဦးသက်ဦးက ရှင်းလင်းတင်ပြရာတွင် မိမိတို့ကုမ္ပဏီသည် ပဲခူးတိုင်းဒေသကြီး၊ ပန်းတောင်းမြို့နယ်၊ သူရဲတန်းကျေးရွာအုပ်စု၊ ကျောက်မြောင်းကွင်းရှိ မြေဧရိယာ (၁၄.၀၅)ဧကပေါ်တွင် တစ်နေ့လျှင် ၇၅တန်ကျ ပျော့ဖတ်နှင့်စက္ကူစက်ရုံ တည်ဆောက်၍ ပျော့ဖတ်နှင့် ထုပ်ပိုးစက္ကူ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ကြောင်း၊ အဆိုပါမြေပေါ်တွင် အဆောက်အဦ(၁၅)လုံး ဆောက်လုပ်မည်ဖြစ်ပြီး လုပ်ငန်းသက်တမ်းမှာ (၃၀)နှစ်ဖြစ်ကြောင်း၊ အဆောက်အဦဆောက်လုပ်ရန်အတွက် ပဏာမစူးစမ်းလေ့လာမှုကာလမှာ (၁၂)လ ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ (၂၄)လဖြစ်ကြောင်း၊ စုစုပေါင်းရင်းနှီးမြှုပ်နှံမှုပမာဏမှာ အမေရိကန်ဒေါ်လာ ၃၁.၀၁သန်း အပါအဝင် ကျပ် ၅၇,၀၉၇.၅၅ သန်း ဖြစ်ကြောင်း ရှင်းလင်းတင်ပြပါသည်။

အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း ဒုတိယအထွေထွေမန်နေဂျာ ဦးချိုအေးက ၂၀၁၅ ခုနှစ် ဧပြီလမှစ၍ ယခင် အထည်အလိပ်လုပ်ငန်း နှင့် စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်းကို ပေါင်း၍ အမှတ်(၃) အကြီးစားစက်မှုလုပ်ငန်းအဖြစ် ဆောင်ရွက်ပါကြောင်း၊ ယခင်က မြန်မာ့စက္ကူနှင့် ဓာတုဗေဒလုပ်ငန်းအဖြစ်လည်းတည်ရှိခဲ့ဖူးကြောင်း၊ ယခုအဆိုပြုလုပ်ငန်းသည် ယခင်က မိမိတို့ဝန်ကြီးဌာနမှ ဆောင်ရွက်သည့် ရေတာရှည်မြို့နယ်၊ ရေနီမြို့တွင် စက္ကူနှင့်ပျော့ဖတ်စက်ရုံ ရှိခဲ့ဖူးကြောင်း၊ စက္ကူစက်ရုံနှင့်စပ်လျဉ်း

စာချုပ်(မူကြမ်း)နှင့်အတူ မြေပိုင်ဆိုင်မှုအထောက်အထားပါ ပူးတွဲတင်ပြမည်ဖြစ်ကြောင်း၊ လုပ်ငန်းအတွက် Architect အကုန်လုပ်ပြီးဖြစ်ကာ Conceptual Plan ရေးဆွဲပြီးဖြစ်ကြောင်း၊ လိုအပ်ချက်များနှင့် ပြင်ဆင်တင်ပြပေးရန်ရှိသည်များကို ပြန်လည်ပြင်ဆင်၍ တင်ပြပေးမည်ဖြစ်ကြောင်း ရှင်းလင်းတင်ပြပါသည်။

အစည်းအဝေးမှ First Myanmar Construction Co., Ltd. သည် ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီပိုင် ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ မင်းဓမ္မလမ်းနှင့်တော်ဝင်လမ်းထောင့်တွင် B.O.T စနစ်ဖြင့် အဆင့်မြင့်ဈေးဝယ်စင်တာ၊ စားသောက်ဆိုင်များ၊ ကဇာတ်ရုံများ၊ ရုပ်ရှင်ရုံများ၊ ရုံးခန်းများ၊ ဟိုတယ်၊ အီလက်ထရောနစ်နှင့် ကုန်သွယ်ရေးစင်တာများ၊ ဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်ရန် ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီမှတစ်ဆင့် အဆိုပြုချက်တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်းပြီး ကုမ္ပဏီမှ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီနှင့်ညှိနှိုင်း၍ အဓိကဆောင်ရွက်လိုသည့် လုပ်ငန်းအမျိုးအစားဖြင့်သာ တွက်ချက်မှုများပြင်ဆင်၍ အဆိုပြုချက်အား ပြန်လည်တင်ပြရန်ဆုံးဖြတ်ပါသည်။

**၁၀။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် ဥရောပအာရှ အဖျော်ယမကာ ကုမ္ပဏီလီမိတက် ရေသန့်၊ နို့၊ ပဲနို့နှင့် အချိုရည်ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ**

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာန ဒုတိယညွှန်ကြားရေးမှူး ဒေါ်မိမိအောင်က အမှာစာကို ဖတ်ကြားပြီး ကုမ္ပဏီမှ ရှင်းလင်းတင်ပြရန် ဖိတ်ခေါ်ပါသည်။

ကုမ္ပဏီ၏ဒါရိုက်တာ ဦးဇော်ဝင်းထွန်းက မိမိတို့ကုမ္ပဏီသည် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ရေသန့်၊ နို့၊ ပဲနို့ နှင့် အချိုရည်ထုတ်လုပ်ခြင်း နှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ကြောင်း၊ လုပ်ငန်းဆောင်ရွက်မည့်နေရာမှာ မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်ခရိုင်၊ စဉ့်ကိုင်မြို့နယ်၊ မြောက်ကိုင်းကျေးရွာအုပ်စုရှိ စုစုပေါင်းမြေဧရိယာ (၁၁.၇၇)ဧကပေါ်တွင် စက်ရုံတည်ဆောက်၍ လုပ်ကိုင်မည်ဖြစ်ကြောင်း၊ အဆိုပါမြေများအနက် ကုမ္ပဏီအမည်နှင့်ထုတ်ပေးထားသော လယ်မြေမှလွဲ၍ ကျန်မြေများမှာ လန/၃၉ ရရှိပြီးမြေများဖြစ်ပြီး မြေဂရန်ရရှိရန်အတွက် တင်ပြထားဆဲဖြစ်ကြောင်း၊ စုစုပေါင်းရင်းနှီးမြှုပ်နှံမှုပမာဏမှာ အမေရိကန်ဒေါ်လာ ၂၆.၂၃၆၇ သန်း အပါအဝင် ကျပ် ၄၈,၉၅၂.၈၆ သန်းဖြစ်ပြီး အဆိုပါရင်းနှီးမြှုပ်နှံမှုပမာဏထဲတွင် နို့နှင့်ပဲနို့ ထုတ်လုပ်သည့်စက်များ၏ တန်ဖိုးပါဝင်ကြောင်း၊ စက်များကို ဆွီဒင်နိုင်ငံထုတ်စက်များကို ဝယ်ယူအသုံးပြုမည်ဖြစ်ပြီး Processing မှအစ ဆွီဒင်နိုင်ငံတွင် အသုံးပြုသည့်အတိုင်း လုပ်ကိုင်မည်ဖြစ်ပြီး ရေသန့်စက်မှာ ဂျာမနီနိုင်ငံမှဖြစ်ကြောင်း၊ ပဲနို့ကို 125 ml ဗူးနှင့် 180ml ဗူး ထုတ်လုပ်မည်ဖြစ်ပြီး ရေသန့်ကို 1 Liter၊ 660 ml နှင့် 330 ml ထုတ်လုပ်မည်ဖြစ်ကြောင်း၊ ပဲနို့အတွက်ကုန်ကြမ်းပဲပိစပ်ကို ပြည်ပမှတင်သွင်းမည်ဖြစ်ပြီး မြန်မာနိုင်ငံမှပဲပိစပ်မှာ ၁၀၀% ပရိုတင်းဓာတ်ထုတ်လုပ်ရန် ကိုက်ညီမှုမရှိ၍ ပြည်ပမှတင်သွင်းရခြင်းဖြစ်ကြောင်း၊ ပဲနို့မှာ ပုံမှန်နို့ထက် ဈေးနှုန်းသက်သာပြီး ပုံမှန်နို့၏ ပရိုတင်းဓာတ်နှင့်အတူတူဖြစ်ကြောင်း၊ နို့နှင့်ပဲနို့သောက်ခြင်းသည် ပြည်သူလူထုကို ကျန်းမာရေးနှင့်ညီညွတ်စေပါကြောင်း၊ ရင်းနှီးမြှုပ်နှံမှုသက်တမ်းမှာ ကနဦး (၅၀)နှစ် နှင့် သက်တမ်းတိုး (၁၀)နှစ် (၂)ကြိမ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ (၂)နှစ်ဖြစ်ကြောင်း၊ လုပ်ငန်းဆောင်ရွက်ရာ၌ ပြည်တွင်းဝန်ထမ်း (၃၇၁)ဦး နှင့် ပြည်ပဝန်ထမ်း (၄)ဦး စုစုပေါင်းဝန်ထမ်း (၃၇၅)ဦး ခန့်ထားမည်ဖြစ်ကြောင်း၊ ဆောက်လုပ်မည့်စက်ရုံဒီဇိုင်း

ရေးဆွဲပြီးဖြစ်ကာ အဆိုပြုချက်တွင် Processing Flow Chart တင်ပြထားပါကြောင်း ရှင်းလင်းတင်ပြပါသည်။

အစားအသောက်နှင့် ဆေးဝါးကွပ်ကဲရေး ဦးစီးဌာန ဦးစီးအရာရှိ ဒေါက်တာဖြိုးမာန်သက်ဦးက ကုမ္ပဏီမှ ပဲနို့အတွက်ပဲပိစပ်ကုန်ကြမ်းကို ပြည်ပမှတင်သွင်းမည်ဟုပြောသဖြင့် ကျန်ကုန်ကြမ်းများ ပြည်ပမှ တင်သွင်းရန်ရှိ-မရှိသိလိုကြောင်း၊ ပြည်ပမှကုန်ကြမ်းများတင်သွင်းမည်ဆိုပါက မိမိတို့ဌာနသို့လျှောက်ထား၍ ခွင့်ပြုချက်ရယူရန်လိုပြီး မည်သည့်နိုင်ငံမှ တင်သွင်းမည်ဆိုသည်ကို ဖော်ပြပေးရန်လိုကြောင်း၊ ရေသန့်ထုတ်လုပ်ပါကလည်း ဌာနမှထောက်ခံချက်ရယူခြင်းမပြုဘဲ ဈေးကွက်သို့ ဖြန့်ဝေခြင်းမပြုရန် ဆွေးနွေးပြောကြားပါသည်။

မြန်မာ့ဆေးဝါးလုပ်ငန်း အထွေထွေမန်နေဂျာ ဦးကျော်ငြိမ်းက ကုမ္ပဏီသည် ပဲနို့ကို ပဲပိစပ်မှထုတ်လုပ်မည်ဖြစ်ပြီး နို့ထုတ်လုပ်ရာ၌ နွားနို့နှင့်နို့မှုန့် မည်သည်ကို အသုံးပြုမည်ကိုသိလိုကြောင်း၊ နို့မှုန့်အသုံးပြုမည်ဆိုပါက မည်သည့်နိုင်ငံမှတင်သွင်းမည်ကိုသိလိုပြီး နို့မှုန့်အသုံးပြုခြင်းမှာ အန္တရာယ် အနည်းငယ်ရှိကြောင်း၊ ကုမ္ပဏီအနေဖြင့် စက်ရုံတည်ဆောက်ရန် ပြည်ပမှစက်ပစ္စည်းများ တင်သွင်းမည်ဖြစ်၍ မည်သည့်လုပ်ငန်းစဉ်အတွက် မည်သည့်စက်အမျိုးအစား အသုံးပြုမည်ကို တင်ပြရန်လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန လက်ထောက်ညွှန်ကြားရေးမှူး ဦးမြင့်ခိုင်က လုပ်ငန်းဆောင်ရွက်မည့် မြေဧရိယာများစုစုပေါင်း (၃၁.၇၇) ဧကမှာ ယခင်ကလယ်ယာမြေများဖြစ်ပြီး အစိုးရမှ အခြားနည်းဖြင့် အသုံးပြုခွင့်ပြုထားသဖြင့် လန/၃၉ ရရှိထားသည့် မြေများဖြစ်ကြောင်း၊ အဆိုပါမြေများကို စက်မှုဂရန်ရရှိရန် လျှောက်ထားဆဲဖြစ်ပြီး လုပ်ငန်းသက်တမ်းကို တနဦး (၅၀)နှစ် နှင့် သက်တမ်းတိုး (၁၀)နှစ် (၂)ကြိမ် တင်ပြထားသည်ကိုတွေ့ရကြောင်း၊ လုပ်ငန်းသက်တမ်းကို စက်မှုဂရန်တွင်ပါရှိသည့်သက်တမ်းနှင့်ကြည့်ရှု၍ မြေဂရန်ရရှိအောင် ဆက်လက်ဆောင်ရွက်ရန်လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

ရန်ကုန် လျှပ်စစ်ဓာတ်အားပေးရေး ကော်ပိုရေးရှင်း လက်ထောက်အထွေထွေမန်နေဂျာ ဦးမောင်ကိုက လုပ်ငန်းဆောင်ရွက်မည့်စက်ရုံတွင် Transformer KVA မည်မျှတပ်ဆင်မည်ကိုသိလိုကြောင်း ဆွေးနွေးပြောကြားပါသည်။

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန ဒုတိယညွှန်ကြားရေးမှူး ဦးသိန်းဆွေက ပြည်ပမှတင်သွင်းမည့် ရုံးသုံးပစ္စည်းစာရင်းတွင် 1250 KVA မီးစက် (၄)လုံး တင်သွင်းမည်ဟု ဖော်ပြထားသဖြင့် အဆိုပါမီးစက်များအတွက် မှတ်ပုံတင်လျှောက်ထားရမည်ဖြစ်ကြောင်း ဆွေးနွေးပြောကြားပါသည်။

အကောက်ခွန်ဦးစီးဌာန ညွှန်ကြားရေးမှူး ဦးကြည်ဦးက ပြည်ပမှ အစားအသောက်ကုန်ကြမ်းများ တင်သွင်းပါက အစားအသောက်နှင့် ဆေးဝါးကွပ်ကဲရေးဦးစီးဌာန၏ ထောက်ခံချက် ပူးတွဲတင်ပြရန်လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

ပြည်တွင်းအခွန်များဦးစီးဌာန ဒုတိယညွှန်ကြားရေးမှူး ဦးအောင်သူထူးက စီးပွားရေးဆိုင်ရာတွက်ချက်မှုများတွင် ကုန်သွယ်လုပ်ငန်းခွန် ၅% ထည့်သွင်းတွက်ချက်ထားသည်ကို တွေ့ရကြောင်း၊ ၂၀၁၅ ခုနှစ် ပြည်ထောင်စုအခွန်အကောက်ဥပဒေအရ ဂျုံ၊ ဂျုံမှုန့် တင်သွင်းပါက အခွန်ကင်းလွတ်ခွင့် ရှိသော်လည်း အဆိုပါအခွန်ကင်းလွတ်ခွင့်၌ နို့၊ နို့မှုန့်နှင့် ပဲနို့မပါသော်လည်း ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့်ပေးသင့်

သည့် ကုန်စည်ဟုယူဆထားပါကြောင်း၊ ရေသန့်နှင့်အချိုရည် ထုတ်လုပ်မည်ဖြစ်၍ ကုန်သွယ်လုပ်ငန်းခွန် ၅% ထည့်သွင်းတွက်ချက်ရမည်ဖြစ်ကြောင်း၊ လုပ်ငန်းဆောင်ရွက်မည့်မြေကို တန်ဖိုးသင့်၍ ရင်းနှီးမြှုပ်နှံမှုထဲသို့ ထည့်ဝင်ထားသည်ကိုတွေ့ရသဖြင့် အကြံပြုလိုသည်မှာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်ရသည်ဖြစ်စေ၊မရသည်ဖြစ်စေ ရှယ်ယာစုထည့်ထား၍ အခွန်ရှင်းလင်းပေးရန်လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန ဒုတိယညွှန်ကြားရေးမှူး ဦးဇော်မိုးက ကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းမှာ ရေသန့်၊ ပဲနို့၊ နို့နှင့် အချိုရည်ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းဖြစ်၍ ကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်း(Initial Enviromental Examination-IEE) ရေးဆွဲရန်လိုပြီး အဆိုပါအစီရင်ခံစာအရ လိုအပ်ပါက ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assess -ment-EIA) ရေးဆွဲတင်ပြရန်လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် တွဲဖက်အတွင်းရေးမှူး ဒေါ်မြသူဇာက ပြည်ပမှတင်သွင်းမည့် မော်တော်ယာဉ်စာရင်းတွင် လူစီးမော်တော်ယာဉ်များ ပါဝင်ပါက အခွန်ပေးဆောင်၍ တင်သွင်းရမည်ဖြစ်ပြီး ပစ္စည်းအမျိုးအစားများကို သေချာစွာ ဖော်ပြပေးရန်လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

အဆိုပြုချက်စိစစ်ရေးအဖွဲ့ အဖွဲ့ခေါင်းဆောင် ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန ညွှန်ကြားရေးမှူးချုပ် ဦးအောင်နိုင်ဦးက ပြည်ပမှ လုပ်ငန်းသုံးမော်တော်ယာဉ်များအား အခွန်ကင်းလွတ်ခွင့်ဖြင့် တင်သွင်းခွင့်ပြုပါကြောင်း၊ လုပ်ငန်းဆောင်ရွက်မည့် မြေများနှင့်ပတ်သက်၍ စက်မှုမြေဂရန်ရရှိအောင် မြန်မြန်ဆောင်ရွက်ရန်လိုကြောင်း၊ နိုင်ငံသားက မိမိကိုယ်ပိုင်မြေပေါ်တွင် လုပ်ငန်းဆောင်ရွက်ပါက လုပ်ငန်းသက်တမ်းဖော်ပြရန်မလိုဘဲ မြေဂရန်သက်တမ်းပေါ်မူတည်၍ ရာသက်ပန်လုပ်ကိုင်နိုင်ပါကြောင်း၊ လုပ်ငန်းဆောင်ရွက်မည့် စဉ့်ကိုင်မြို့နယ်ပတ်ဝန်းကျင်မှာ နို့ထုတ်သည့်နေရာဖြစ်၍ ဖြစ်နိုင်ပါက အနာဂါတ်တွင် လုပ်ငန်းဆောင်ရွက်ရာ၌ ပြည်တွင်းမှထွက်ရှိသည့် နို့များကိုသာ အသုံးပြုစေလိုကြောင်း၊ လက်ရှိတွင် နွားမွေးမြူသည့်ခြံများမှာ အရှုံးပေါ်နေကြ၍ ယခုလုပ်ငန်းလုပ်ကိုင်ရာ၌ ၎င်းတို့ခြံမှထွက်ရှိသည့် နို့များကိုဝယ်ယူအသုံးပြုပါက ၎င်းတို့အတွက်လည်း အကျိုးရှိနိုင်မည်ဖြစ်ကြောင်း ဆွေးနွေးပြောကြားပါသည်။

ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန ဒုတိယညွှန်ကြားရေးမှူးချုပ် ဒေါ်ချိုချိုဝင်း က ထုတ်လုပ်မည့်ပစ္စည်းများအတွက် ဗူးအဖုံးများကို ယခုစက်ရုံမှ တစ်ခါတည်း ထုတ်လုပ်ရန်ရှိ-မရှိ သိလိုပြီး အဆိုပါပစ္စည်းများကို မည်သည့်ကုန်အမှတ်တံဆိပ်တပ်ဆင်မည်ကိုသိလိုကာ မှတ်ပုံတင်ပြီးခြင်းရှိ-မရှိသိလိုကြောင်း၊ လက်ရှိတင်ပြထားရာတွင် အမှတ်တံဆိပ် (၂)ခုတွေ့ရှိရကြောင်း ဆွေးနွေးပြောကြားပါသည်။

ကုမ္ပဏီ၏ဒါရိုက်တာ ဦးကျော်ဝင်းထွန်းက ရှင်းလင်းတင်ပြရာတွင် လုပ်ငန်းဆောင်ရွက်ရာ၌ အသုံးပြုမည့်ကုန်ကြမ်းပစ္စည်းအများစုကို ပြည်ပမှတင်သွင်းမည်ဖြစ်ပြီး ပဲပိစပ်ကို ကနေဒါနိုင်ငံနှင့် အမေရိကန်နိုင်ငံတို့မှဝယ်ယူပြီး စင်္ကာပူနိုင်ငံရှိစက်ရုံမှတစ်ဆင့် တင်သွင်းမည်ဖြစ်ကြောင်း၊ Packing Material မှာ Tetra Pack ဖြစ်၍ ပြည်ပမှတင်သွင်းမည်ဖြစ်ကြောင်း၊ နို့မှုန့်ကို ကနေဒါနိုင်ငံရှိ ကမ္ဘာမြေပေါ်တွင် နို့မှုန့်ထုတ်လုပ်မှုနှင့်ပတ်သက်၍ နာမည်ကြီးကုမ္ပဏီတစ်ခုမှ တင်သွင်းမည်ဖြစ်ပြီး ပြည်တွင်းနို့ farm မှ ရရှိနိုင်ပါကလည်း ဝယ်ယူအသုံးပြုမည်ဖြစ်ကြောင်း၊ ယခုနောင်ချိုမြို့တွင် နို့ farm တစ်ခု တည်ထောင်ထားသည်ဟုကြားသိရပါကြောင်း၊ အဆိုပြုချက်တွင် Processing Flow Chart တင်ပြထားပြီး မည်သည့်လုပ်ငန်းစဉ်

အတွက် မည်သည့်စက်အမျိုးအစား အသုံးပြုမည်ဆိုသည်မှာ မပါသေး၍ တင်ပြပေးမည်ဖြစ်ကြောင်း၊ စက်ရုံတွင် လျှပ်စစ်ဓာတ်အား ၁၀ မဂ္ဂါဝပ် သုံးစွဲမည်ဟု လျှပ်စစ်ဌာနသို့ လျှောက်ထားမည်ဖြစ်ကြောင်း၊ ပြည်ပမှတင်သွင်းမည့် 1250 KVA မီးစက် (၄)လုံးအတွက် မှတ်ပုံတင်လျှောက်ထားမည်ဖြစ်ကြောင်း၊ ပဲနို့နှင့် နို့အတွက် ပြည်ပမှ စက္ကူဘူးနှင့်ပိုက်များတင်သွင်းမည်ဖြစ်ပြီး ရေသန့်အတွက်ဘူးများကို ယခုစက်ရုံမှထုတ်လုပ်မည်ဖြစ်ကြောင်း၊ ပဲနို့နှင့်နို့အတွက် ကုန်အမှတ်တံဆိပ်မှာ "Vito" ဖြစ်ပြီး ရေသန့်အတွက် ကုန်အမှတ်တံဆိပ်မှာ "asia" ဖြစ်ကြောင်း၊ အဆိုပြုချက်တွင် လိုအပ်ချက်များနှင့် အခြားပြင်ဆင် တင်ပြပေးရန်ရှိသည်များကို ပြန်လည်ပြင်ဆင် တင်ပြပေးမည်ဖြစ်ကြောင်း ရှင်းလင်းတင်ပြပါသည်။

အစည်းအဝေးမှ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် ဥရောပအာရှ အဖျော်ယမကာ ကုမ္ပဏီလီမိတက် ရေသန့်၊ နို့၊ ပဲနို့နှင့် အချိုရည် ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စအား အောက်ပါ အတိုင်း ဆုံးဖြတ်ပါသည်-

(က) လုပ်ငန်းစဉ်အလိုက် အသုံးပြုမည့် စက်ပစ္စည်း အမျိုးအစားတင်ပြရန်။

(ခ) စီးပွားရေးဆိုင်ရာ တွက်ချက်မှုတွင် ထုတ်လုပ်သည့်ကုန်စည်အလိုက် ပေးဆောင်ရမည့် ကုန်သွယ်လုပ်ငန်းခွန် ၅ % ထည့်သွင်းတွက်ချက် ဖော်ပြရန်။

(ဂ) သဘောထားများစုံလင်ပြီး လိုအပ်ချက်များ ပြင်ဆင်တင်ပြလာပါက ကော်မရှင် အစည်းအဝေးသို့ တင်ပြရန်။

**၁၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် စကြာဝဠာဘုရင်(ဆောက်လုပ်ရေး)ကုမ္ပဏီလီမိတက်မှ တစ်နေ့လျှင် ၇၅ တန်ကျ ပျော့ဖတ်နှင့်စက္ကူစက်ရုံ တည်ဆောက်၍ ပျော့ဖတ်နှင့်ထုတ်ပိုးစက္ကူ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ**

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာန ဒုတိယညွှန်ကြားရေးမှူး ဒေါ်မီမီအောင် က အမှာစာကို ဖတ်ကြားပြီးကုမ္ပဏီမှ ရှင်းလင်းတင်ပြရန် ဖိတ်ခေါ်ပါသည်။

ကုမ္ပဏီ၏ အကြံပေး ဦးသက်ဦးက ရှင်းလင်းတင်ပြရာတွင် မိမိတို့ကုမ္ပဏီသည် ပဲခူးတိုင်းဒေသကြီး၊ ပန်းတောင်းမြို့နယ်၊ သူရဲတန်းကျေးရွာအုပ်စု၊ ကျောက်မြောင်းကွင်းရှိ မြေဧရိယာ (၁၄.၀၅)ဧကပေါ်တွင် တစ်နေ့လျှင် ၇၅တန်ကျ ပျော့ဖတ်နှင့်စက္ကူစက်ရုံ တည်ဆောက်၍ ပျော့ဖတ်နှင့် ထုပ်ပိုးစက္ကူ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ကြောင်း၊ အဆိုပါမြေပေါ်တွင် အဆောက်အဦ(၁၅)လုံး ဆောက်လုပ်မည်ဖြစ်ပြီး လုပ်ငန်းသက်တမ်းမှာ (၃၀)နှစ်ဖြစ်ကြောင်း၊ အဆောက်အဦဆောက်လုပ်ရန် အတွက် ပဏာမစူးစမ်းလေ့လာမှုကာလမှာ (၁၂)လ ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ (၂၄)လဖြစ်ကြောင်း၊ စုစုပေါင်းရင်းနှီးမြှုပ်နှံမှုပမာဏမှာ အမေရိကန်ဒေါ်လာ ၃၁.၀၁သန်း အပါအဝင် ကျပ် ၅၇,၀၉၇.၅၅ သန်း ဖြစ်ကြောင်း ရှင်းလင်းတင်ပြပါသည်။

အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း ဒုတိယအထွေထွေမန်နေဂျာ ဦးချိုအေးက ၂၀၁၅ ခုနှစ် ဧပြီလမှစ၍ ယခင် အထည်အလိပ်လုပ်ငန်း နှင့် စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်းကို ပေါင်း၍ အမှတ်(၃) အကြီးစားစက်မှုလုပ်ငန်းအဖြစ် ဆောင်ရွက်ပါကြောင်း၊ ယခင်က မြန်မာ့စက္ကူနှင့် ဓာတုဗေဒလုပ်ငန်း အဖြစ်လည်းတည်ရှိခဲ့ဖူးကြောင်း၊ ယခုအဆိုပြုလုပ်ငန်းသည် ယခင်က မိမိတို့ဝန်ကြီးဌာနမှ ဆောင်ရွက်

| ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
| --- | --- |
| ၍ အဓိကဆောင်ရွက်လိုသည့်လုပ်ငန်းအမျိုးအစားဖြင့်သာ တွက်ချက်မှုများပြင်ဆင်၍ အဆိုပြုချက်အား ပြန်လည်တင်ပြရန်။ | |
| (၈) မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် ဥရောပအာရှ အဖျော်ယမကာကုမ္ပဏီလီမိတက်မှ ရေသန့်၊ နို့၊ ပဲနို့နှင့် အချိုရည်ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍-<br>(၁) လုပ်ငန်းစဉ်အလိုက် အသုံးပြုမည့်စက်ပစ္စည်းအမျိုးအစားတင်ပြရန်။<br>(၂) စီးပွားရေးဆိုင်ရာ တွက်ချက်မှုတွင် ထုတ်လုပ်သည့်ကုန်စည်အလိုက် ပေးဆောင်ရမည့် ကုန်သွယ်လုပ်ငန်းခွန် ၅ % ထည့်သွင်းတွက်ချက်ဖော်ပြရန်။<br>(၃) သဘောထားများစုံလင်ပြီး လိုအပ်ချက်များ ပြင်ဆင်တင်ပြလာပါက ကော်မရှင်အစည်းအဝေးသို့ တင်ပြရန်။ | အဆိုပြုချက် စိစစ်ရေးအဖွဲ့<br>ဥရောပအာရှ အဖျော်ယမကာ ကုမ္ပဏီလီမိတက် |
| (၉) မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် စကြာ်ဝဠာဘုရင် (ဆောက်လုပ်ရေး) ကုမ္ပဏီလီမိတက်မှ တစ်နေ့လျှင် ၇၅ တန်ကျ ပျော့ဖတ်နှင့်စက္ကူစက်ရုံ တည်ဆောက်၍ ပျော့ဖတ် နှင့် ထုတ်ပိုးစက္ကူ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်း ကိစ္စနှင့်စပ်လျဉ်း၍ လုပ်ငန်းဆောင်ရွက်မည့်နေရာကို အဓိကထားပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်မည့်အပေါ် ကုမ္ပဏီမှ ပြန်လည်စဉ်းစားရန်။ | အဆိုပြုချက် စိစစ်ရေးအဖွဲ့<br>စကြာ်ဝဠာဘုရင် (ဆောက်လုပ်ရေး) ကုမ္ပဏီလီမိတက် |

၁၃။ အစည်းအဝေးကို နေ့လည် (၂း၀၀) နာရီတွင် ရုပ်သိမ်းပါသည်။

မှတ်တမ်းတင်သူ

(မြစန္ဒာ)
ညွှန်ကြားရေးမှူး

စာအမှတ်၊ ရက-၆/ ၁/၂၀၁၅ ( ၄၆၃၄ )
ရက်စွဲ ၊ ၂၀၁၅ ခုနှစ် စက်တင်ဘာလ ၇ ရက်

ဖြန့်ဝေခြင်း

အစည်းအဝေးတက်ရောက်သူများအားလုံး

MIC ၂၁/၂၀၁၅
၂၅.၁၁.၂၀၁၅

ကုမ္ပဏီအမည် - Europe & Asia Beverages Co., Ltd.

လုပ်ငန်း - ရေသန့်၊ နို့ပဲနို့နှင့်အချိုရည် ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၂၁-၈-၂၀၁၅ | | |
| ၂ | PAT တင်ပြခြင်း | ၃၁-၈-၂၀၁၅ | | |
| ၃ | PAT လက်ခံကြောင်းပြန်ကြားခြင်း | ၆-၁၀-၂၀၁၅ | | |
| ၄ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၇-၉-၂၀၁၅ | ၂၃-၉-၂၀၁၅ | |
| | (ခ) စက်မှုဝန်ကြီးဌာန | ၇-၉-၂၀၁၅ | ၇-၁၀-၂၀၁၅ | |
| | (ဂ) မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး | ၇-၉-၂၀၁၅ | - | |
| | မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး ထပ်မံတောင်းခံခြင်း ကိစ္စ | ၄-၁၁-၂၀၁၅ | ၁၃-၁၁-၂၀၁၅ | |
| | (ဃ) ကျန်းမာရေးဝန်ကြီးဌာန | ၇-၉-၂၀၁၅ | ၂-၁၀-၂၀၁၅ | |
| ၅ | ကုမ္ပဏီ မှပြင်ဆင်ချက် | | | |
| ၆ | အဆိုပြုလုပ်ငန်းအားမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ( /၂၀၁၅)ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခြင်း | | | |
| | စုစုပေါင်းကြာမြင့်ချိန် | ၉၀ ရက် | | |

| | | |
|---|---|---|
| ကုမ္ပဏီအမည် | - | **Europe & Asia Beverages Co., Ltd.** |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - | မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - | ရေသန့်၊ နို့ပါနို့နှင့်အချိုရည်ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း |
| တည်နေရာ | - | မန္တလေးတိုင်းဒေသကြီး၊ကျောက်ဆည်ခရိုင်၊စဉ့်ကိုင်မြို့နယ်၊မြောက်ကိုင်းကျေးရွာ အုပ်စု၊အကွက်အမှတ်(၁၉)၊ဆဲ့နှစ်ကိုင်းဦးပိုင်အမှတ်(၁၇၀၊ ၁၇၁၊ ၁၇၂/၁၊ ၁၇၅/၁၊၁၇၆၊၁၇၇၊၁၇၈၊၁၇၉/၁၊၁၇၉/၂)ရှိဧရိယာ ၂၂.၆၈ ဧကနှင့်ဦးပိုင်အမှတ် (၁၆၆/၂၊၁၆၇၊၁၆၈/၂၊၁၆၉)ရှိဧရိယာ၉.၀၉ဧက (စုစုပေါင်း ဧရိယာ ၃၁.၇၇ ဧက) |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | **ကျပ်၄၈,၉၅၂.၈၆သန်း**(အမေရိကန်ဒေါ်လာ၂၆.၂၃၆၇သန်းအပါအဝင်) |
| ရောင်းချမည့်စနစ် | - | ပြည်တွင်းရောင်း(၁၀၀%) |
| လုပ်ငန်းသက်တမ်း | - | ကနဦး ၅၀ နှစ် နှင့် နောက်ထပ် (၁၀) နှစ် သက်တမ်းတိုးနှစ်ကြိမ် |
| အရင်းကြေကာလ | - | ၂နှစ် |
| IRR | - | ၁၆.၂၁ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏ လစာ | ကျပ် ၁.၅၄၈ သန်း (တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ကျပ် ၁.၁၆၅ သန်း |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ကျပ် ၁၃၉၇.၁၆ သန်း | |
| ၄ | ဝင်ငွေခွန် | ကျပ် ၅၀၃၄ သန်း | ကျပ် ၁၃၃၇၂.၁၈ သန်း |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | | ကျပ် ၁၂၈၄၁ သန်း |
| ၆ | ရေ၊ လျှပ်စစ်မီးသုံးစွဲခ | | ကျပ် ၁၁၃၄၅ သန်း |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | တစ်နှစ်ဝင်ငွေကျပ်သိန်းနှစ်ဆယ် ထက်ကျော်ပါကအခွန်ဆောင်ရမည့်ဝန်ထမ်း (၁၄)ဦး |
| ၈ | CSR (၂ %) | | ကျပ် ၇၂၃ သန်း |
| ၉ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ၃၇၁ ဦး<br>ပြည်ပ ၄ ဦး<br>ပြည်တွင်းလုပ်သား ( **၃၇၁** ) ဦး အလုပ်အကိုင်ရရှိမည်ဖြစ်၍ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့်ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုကိုအထောက်အကူပြုစေပါသည်။ |
| | | ကျပ် ၆၄၃၂.၇၁ သန်း | **ကျပ် ၃၈၂၈၁.၁၈ သန်း** |
| | Cost & Benefit | ၁ : ၆ | |

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ဥရောပအာရှ အဖျော်ယမကာ ကုမ္ပဏီလီမိတက် (Europe & Asia Beverages Co., Ltd.) မှ ရေသန့်၊နို့ပဲနို့နှင့် အချိုရည် ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန်အဆိုပြုတင်ပြလာခြင်း လာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ | - Europe & Asia Beverages Company Limited. |
| | ကမကထပြုသူ | - ဦးကျော်ဝင်းထွန်း(အဘ-ဦးထွန်းဝင်း) |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| | လုပ်ငန်းအမျိုးအစား | ရေသန့်၊နို့၊ပဲနို့နှင့်အချိုရည်ထုတ်လုပ်ခြင်းနှင့်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်ခရိုင်၊ စဉ့်ကိုင် မြို့နယ်၊ မြောက်ကိုင်းကျေးရွာအုပ်စု၊ အကွက်အမှတ်(၁၉)၊ ဆဲ့နှစ်ကိုင်း၊ ဦးပိုင်အမှတ်(၁၇၀၊ ၁၇၁၊ ၁၇၂/၁၊ ၁၇၅/၁၊ ၁၇၆၊ ၁၇၇၊ ၁၇၈၊ ၁၇၉/၁၊ ၁၇၉/၂) ဧရိယာ၂၂.၆၈ ဧကနှင့် ဦးပိုင်အမှတ် (၁၆၆/၂၊ ၁၆၇၊ ၁၆၈/၂၊ ၁၆၉)ရှိ ဧရိယာ၉.၀၉ဧက (စုစုပေါင်း ဧရိယာ ၃၁.၇၇ ဧက) |
| ၃။ | မြေအကျယ်အဝန်း | - ၁၂၈၅၆၈.၇၄ စတုရန်းမီတာ (ဧရိယာ၃၁.၇၇ဧက) |
| ၄။ | လုပ်ငန်းသက်တမ်း | - ၅၀ နှစ် နှင့် သက်တမ်းတိုး (၁၀)နှစ် နှစ်ကြိမ် ဖြစ်ပါသည်။ |
| | တည်ဆောက်ရေးကာလ | - ၂ နှစ် |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | ကျပ် **၄၈,၉၅၂.၈၆သန်း**(အမေရိကန်ဒေါ်လာ၂၆.၂၃၆၇ သန်း အပါအဝင်) |
| | - ငွေပမာဏ | - ကျပ် ၃၃၀၀.၀၀သန်း |
| | - စက်ပစ္စည်းများ၊ စက်ကိရိယာများ | - ကျပ် ၂၄၈၈၆.၈၀သန်း(အမေရိကန်ဒေါ်လာ၂၀.၇၃၉သန်း အပါအဝင်) |
| | - အဆောက်အအုံ | - ကျပ် ၆၆၀၀.၀၀သန်း |
| | - မြေ | - ကျပ် ၂၂၀၀.၀၀သန်း |
| | - ပရိဘောဂနှင့် လုပ်ငန်းသုံး ပစ္စည်းများ | - ကျပ် ၅၇၂၁.၃၉သန်း(အမေရိကန်ဒေါ်လာ ၂.၀၀ သန်း အပါ အဝင်) |
| | - ရေဆိုးသန့်စင်ကန် | - ကျပ် ၁၈၇၀.၀၀သန်း |
| | - လုပ်ငန်းသုံးယာဉ် | - ကျပ် ၆၅၇.၂၇သန်း(အမေရိကန်ဒေါ်လာ ၀.၅၄၇၇ သန်း |
| | - အဝီစိရေတွင်း | အပါအဝင်) |
| | - စက်တပ်ဆင်မှုသင်တန်း | - ကျပ် ၁၈၀.၀၀သန်း |
| | အင်ဂျင်နီယာ၊ကော်မရှင်ခ | - ကျပ် ၃၅၃၆.၄၀သန်း (အမေရိကန်ဒေါ်လာ ၂.၉၅ သန်း အပါအဝင်) |

၆။ ဝန်ထမ်းအင်အား

- ၃၇၅ ဦး

ပြည်တွင်း

- ၃၇၁ ဦး (ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ ၉၀,၀၀၀ ကျပ်နှင့်အမြင့်ဆုံးလစာ ၁,၀၀၀,၀၀၀ ကျပ်)

ပြည်ပ

- ၄ ဦး (ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ အမေရိကန် ဒေါ်လာ ၃၀၀၀ဖြစ်ပြီး အမြင့်ဆုံးလစာမှာ အမေရိကန် ဒေါ်လာ ၅၀၀၀ ဖြစ်ပါသည်။

၇။ ရောင်းချမည့်စနစ် နှစ်စဉ်ထုတ်လုပ်မှု (၆ နှစ်မြောက်) (ပြည်တွင်းရောင်း)

- ပြည်တွင်း၌ ၁၀၀% ရောင်းချမည် ဖြစ်ပါသည်။

| စဉ် | ပစ္စည်း အမျိုးအစား | အရေ အတွက် (ဗူး) | ရောင်းချမည့် ဈေးနှုန်း (ကျပ်) |
|---|---|---|---|
| ဝဗူ (130 ml) | | | |
| ၁ | Plain Soymilk | ၂၃,၄၇၅,၅၇၁ | ၁၇၅ |
| ၂ | Milk Flavoured Soymilk | ၂၃,၄၇၅,၅၇၁ | ၁၇၅ |
| ၃ | Blackseasame Soymilk | ၁၅,၆၅၀,၃၈၁ | ၁၇၅ |
| ၄ | Chocolate Soymilk | ၁၅,၆၅၀,၃၈၁ | ၁၇၅ |
| ၅ | Sweet Milk | ၂၃,၄၇၅,၅၇၁ | ၂၂၅ |
| ၆ | Strawberry Milk | ၁၅,၆၅၀,၃၈၁ | ၂၂၅ |
| ၇ | Strawberry Soymilk | ၁၅,၆၅၀,၃၈၁ | ၁၇၅ |
| ၈ | Chocolate Malt Milk | ၂၃,၄၇၅,၅၇၁ | ၂၈၃ |
| ဝဗူ (125ml) | | | |
| ၉ | Plain Soymilk | ၂၃,၄၇၅,၅၇၁ | ၁၃၀ |
| ၁၀ | Milk Flavoured Soymilk | ၂၃,၄၇၅,၅၇၁ | ၁၃၀ |
| ၁၁ | Blackseasame Soymilk | ၁၅,၆၅၀,၃၈၁ | ၁၃၀ |
| ၁၂ | Chocolate Soymilk | ၁၅,၆၅၀,၃၈၁ | ၁၃၀ |
| ၁၃ | Sweet Milk | ၂၃,၄၇၅,၅၇၁ | ၁၃၀ |
| ၁၄ | Strawberry Milk | ၁၅,၆၅၀,၃၈၁ | ၁၃၀ |
| ၁၅ | Strawberry Soymilk | ၁၅,၆၅၀,၃၈၁ | ၁၃၀ |
| ၁၆ | Chocolate Malt Milk | ၂၃,၄၇၅,၅၇၁ | ၁၃၀ |
| ရေသန့် | | | |
| ၁ | 1 Litre | ၁၃၅,၉၀၇,၂၀၀ | ၁၈၅ |
| ၂ | 560 ml | ၁၅၂,၈၉၅,၆၀၀ | ၁၁၅ |
| ၃ | 330 ml | ၅၀,၉၆၅,၂၀၀ | ၇၅ |

၈။ (၆ နှစ်မြောက်)ဝင်ငွေ

- ကျပ် ၉၈,၇၇၄ သန်း

အသားတင်အမြတ်

- ကျပ် ၇၉၈၉ သန်း

အသုံးစရိတ်

- ကျပ် ၉၀,၇၈၅ သန်း

| | | |
|---|---|---|
| ၉။ | နိုင်ငံတော်မှရရှိမည့် အကျိုးအမြတ် | |
| | ဝင်ငွေခွန် | - ကျပ် ၂.၆၆၃.၁၁ သန်း |
| | ကုန်သွယ်လုပ်ငန်းခွန် | - ကျပ် ၄၉၃၉.၀၀ သန်း |
| | အရင်းကြေကာလ | - ၅ နှစ် ၁၀ လ |
| | အရင်းအနှီးအပေါ်အကျိုး အမြတ်ပြန်ပေါ်နှုန်း (IRR) | - ၁၆.၂၁ % |
| | CSR ၂% | - ကျပ် ၁၆၀ သန်း |
| ၁၀။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု(နှစ်စဉ်) | - ၄၅၀၂ kwh |
| ၁၁။ | အခြားတင်ပြချက် | - ငွေအထောက်အထားအဖြစ် Europe & Asia Beverages Co., Ltd. အမည်ဖြင့် ကမ္ဘောဇဘဏ်ရှိ(၇-၈-၂၀၁၅)ရက်ရှိ ငွေလက်ကျန်ကျပ်ငွေ ၅၀၀၀ သန်း တင်ပြ ထားပါ သည်။<br>- Europe & Asia Beverages Co., Ltd.၏ မှတ်ပုံတင်လက်မှတ်၊ ပုံစံ၆၊ ၂၆ နှင့် MOA,AOA မိတ္တူတို့ကို တင်ပြထားပါသည်။<br>- ဒါရိုက်တာ အဖွဲ့ဝင်များ၏ မှတ်ပုံတင်မိတ္တူများကို တင်ပြထားပါသည်။<br>- မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက် တင်ပြထားပါသည်။<br>- ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်စေရေးအတွက် လုပ်ငန်းစီမံချက် တင်ပြထားပါသည်။<br>- ရေဆိုးစွန့်ပစ်မှုအစီအစဉ်အတွက်စီမံချက်လည်းပါရှိပါ သည်။<br>- လုပ်ငန်းခွင်သာယာရေးနှင့် လုပ်သားများ သက်သာ ချောင်ချိရေးအတွက်စီမံချက်လည်းပါဝင်ပါသည်။<br>- ကုမ္ပဏီမှတင်ပြထားသောမြေများနှင့်စပ်လျဉ်း၍ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့မှ ကုမ္ပဏီအမည်ဖြင့် ထုတ်ပေးထားသော လယ်မြေမှတစ်ပါး လယ်ယာမြေအား အခြားနည်း အသုံးပြုရန်ခွင့်ပြုမိန့်များ၊မြေစာရင်းပုံစံ-၁၀၅တို့ကိုတင်ပြထားပါ သည်။<br>- မြေအမျိုးအစားမှာ လ/န - ၃၉ ခွင့်ပြုပြီး မြေ ဖြစ်ပါသည်။<br>- မြေဂရန်ရရှိရန်အတွက်လျှောက်ထားသည့်အထောက်အထား တင်ပြထားပါသည်။<br>- အဆောက်အဦဓါတ်ပုံ တင်ပြထားခြင်းမရှိပါ။<br>- ကုမ္ပဏီမှ ထုတ်လုပ်သည့် ကုန်ပစ္စည်းများကို Vito ကုန်အမှတ် တံဆိပ်ဖြင့် ရောင်းချမည် ဖြစ်ပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ ရက - ၂/ မ- ၂၁၈ / ၂၀၁၅ ( ၉၀၈ )

ရက်စွဲ ၊ ၂၀၁၅ ခုနှစ် နိုဝင်ဘာလ ၂၀ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**

**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **Europe & Asia Beverages Company Limited မှ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် ရေသန့်၊ နို့၊ ပဲနို့နှင့်အချိုရည် ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စ**

၁။ Europe & Asia Beverages Company Limited. သည် မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်ခရိုင်၊စဉ့်ကိုင်မြို့နယ်၊ မြောက်ကိုင်းကျေးရွာအုပ်စု၊ အကွက်အမှတ်(၁၉)၊ ဆဲ့နှစ်ကိုင်း၊ ဦးပိုင်အမှတ် (၁၇၀၊၁၇၁၊ ၁၇၂/၁၊၁၇၅/၁၊၁၇၆၊၁၇၇၊၁၇၈၊ ၁၇၉/၁၊၁၇၉/၂) ဧရိယာ ၂၂.၆၈ ဧကနှင့် ဦးပိုင်အမှတ် (၁၆၆/၂၊ ၁၆၇၊၁၆၈/၂၊ ၁၆၉) ရှိ ဧရိယာ ၉.၀၉ဧက (စုစုပေါင်းဧရိယာ ၃၁.၇၇ ဧက) ၁၂၈၅၆၈.၇၄ စတုရန်းမီတာတွင် ရေသန့်၊ နို့၊ ပဲနို့နှင့် အချိုရည် ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု တင်ပြလာပါသည်။

၂။ လုပ်ငန်းစီမံကိန်း ကာလမှာ ၅၀ နှစ် နှင့် သက်တမ်းတိုး ၁၀နှစ် နှစ်ကြိမ် ဖြစ်ပြီး၊ တည်ဆောက်ရေးကာလ ၂ နှစ် ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၃။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ အမေရိကန်ဒေါ်လာ ၂၆.၂၃၆၇ သန်းအပါအဝင် မြန်မာကျပ်ငွေ ၄၈.၉၅၂.၈၆ သန်းဖြစ်ပါသည်။ ယင်းတွင် ငွေသား ကျပ် ၃၃၀၀ သန်း၊ စက်ပစ္စည်း၊ စက်ကိရိယာ များမှာ အမေရိကန်ဒေါ်လာ ၂၀.၇၃၉ သန်းအပါအဝင် ကျပ်ငွေ ၂၄၈၈၆.၈၀ သန်း၊ အဆောက်အအုံမှာ မြန်မာကျပ်ငွေ ၆၆၀၀ သန်း၊ မြေမှာ ကျပ် ၂၂၀၀ သန်း၊ ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းများမှာ အမေရိကန်ဒေါ်လာ ၂.၀၀ သန်းအပါအဝင် မြန်မာကျပ်ငွေ ၅၇၂၀.၃၉ သန်း၊ ရေဆိုးသန့်စင်ကန် မြန်မာကျပ်ငွေ ၁၈၇၀ သန်း၊ လုပ်ငန်းသုံးယာဉ် မှာ အမေရိကန်ဒေါ်လာ ၀.၅၄၇၇ သန်းအပါအဝင် မြန်မာကျပ်ငွေ ၆၅၇.၂၇ သန်း၊ အဝီစိရေတွင်းကုန်ကျစရိတ် မြန်မာ ကျပ်ငွေ ၁၈၀ သန်း၊ စက်တပ်ဆင်မှု၊ သင်တန်း၊ အင်ဂျင်နီယာ၊ ကော်မရှင်ခမှာ အမေရိကန်ဒေါ်လာ ၂.၉၅ သန်း အပါအဝင် မြန်မာကျပ်ငွေ ၃၅၃၆.၄၀ သန်းတို့ ဖြစ်ပါသည်။

၄။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်းဦးရေ (၃၇၁) ဦးနှင့် ပြည်ပမှ ကျွမ်းကျင်ဝန်ထမ်းဦးရေ (၄) ဦး စုစုပေါင်း (၃၇၅) ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်း၏ အနိမ့်ဆုံးလစာမှာ ကျပ် ၉၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ ကျပ် ၁,၀၀၀,၀၀၀ ဖြစ်ကြောင်းနှင့် ပြည်ပဝန်ထမ်းတစ်ဦး၏လစာမှာအနိမ့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၃၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၅၀၀၀ ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်းမှ ထုတ်ကုန်များကို ပြည်တွင်းရောင်း(၁၀၀%) ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ်တွင်ထုတ်လုပ်မှုနှင့် ပြည်တွင်းရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| စဉ် | ပစ္စည်း အမျိုးအစား | အရေအတွက် (ဗူး) | ရောင်းချမည့် ဈေးနှုန်း (ဗူး/ကျပ်) |
|---|---|---|---|
| | ဝဲနို့(180ml) | | |
| ၁ | Plain Soymilk | ၂၃,၄၇၅,၅၇၀ | ၁၇၅ |
| ၂ | Milk Flavoured Soymilk | ၂၃,၄၇၅,၅၇၀ | ၁၇၅ |
| ၃ | Blackseasame Soymilk | ၁၅,၆၅၀,၃၈၀ | ၁၇၅ |
| ၄ | Chocolate Soymilk | ၁၅,၆၅၀,၃၈၀ | ၁၇၅ |
| ၅ | Sweet Milk | ၂၃,၄၇၅,၅၇၀ | ၂၂၅ |
| ၆ | Strawberry Milk | ၁၅,၆၅၀,၃၈၀ | ၂၂၅ |
| ၇ | Strawberry Soymilk | ၁၅,၆၅၀,၃၈၀ | ၁၇၅ |
| ၈ | Chocolate Malt Milk | ၂၃,၄၇၅,၅၇၀ | ၂၈၃ |
| ဝဲနို့(125ml) | | | |
| ၁ | Plain Soymilk | ၂၃,၄၇၅,၅၇၀ | ၁၃၀ |
| ၂ | Milk Flavoured Soymilk | ၂၃,၄၇၅,၅၇၀ | ၁၃၀ |
| ၃ | Blackseasame Soymilk | ၁၅,၆၅၀,၃၈၀ | ၁၃၀ |
| ၄ | Chocolate Soymilk | ၁၅,၆၅၀,၃၈၀ | ၁၃၀ |
| ၅ | Sweet Milk | ၂၃,၄၇၅,၅၇၀ | ၁၃၀ |
| ၆ | Strawberry Milk | ၁၅,၆၅၀,၃၈၀ | ၁၃၀ |
| ၇ | Strawberry Soymilk | ၁၅,၆၅၀,၃၈၀ | ၁၃၀ |
| ၈ | Chocolate Malt Milk | ၂၃,၄၇၅,၅၇၀ | ၁၃၀ |
| ရေသန့် | | | |
| ၁ | 1 Litre | ၁၃၅,၉၀၇,၂၀၀ | ၁၈၅ |
| ၂ | 660 ml | ၁၅၂,၈၉၅,၆၀၀ | ၁၁၅ |
| ၃ | 330 ml | ၅၀,၉၆၅,၂၀၀ | ၇၅ |

၆။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင် ရရှိမည့် ဝင်ငွေ နှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | |
|---|---|---|
| (က) ဝင်ငွေ | - ကျပ် ၉၈,၇၇၄ | သန်း |
| (ခ) အသုံး စရိတ် | - ကျပ် ၉၁,၇၈၅ | သန်း |
| (ဂ) အသားတင်အမြတ် | - ကျပ် ၇,၉၈၉ | သန်း |

၇။ နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | |
|---|---|---|
| ဝင်ငွေခွန် (၂၅%) | ကျပ် | ၂,၆၆၃.၁၁ သန်း |
| ကုန်သွယ်လုပ်ငန်းခွန် | ကျပ် | ၄,၉၃၉.၀၀ သန်း |

၈။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၅)နှစ်(၁၀)လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ (၁၆.၂၁) ရာခိုင်နှုန်း ဖြစ်ပါသည်။

၉။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြား ထားပါသည်-

(က) **မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့** မှ နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိ မြို့ပြစီမံကိန်းကို ထိခိုက်နိုင်မှုမရှိပါကြောင်း၊ မြို့နယ်ဒေသအလုပ်အကိုင်၊ အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူ ဖြစ်စေပါကြောင်း၊ အဆိုပြုမြေနေရာကို လုပ်ငန်း ဆောင်ရွက်သုံးစွဲခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေးနှင့် သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်မှုရှိပါကြောင်း၊ တိုင်းဒေသကြီးအစိုးရအဖွဲ့မှ ကန့်ကွက်ရန်မရှိပါကြောင်း သဘောထား ပြန်ကြား ထားပါသည်။

**နောက်ဆက်တွဲ-က**

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန** မှ အဆိုပြု လုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံချက်များ ရေးဆွဲ ချမှတ်ခြင်း၊ ထုတ်လုပ်ခြင်း လုပ်ငန်းအဆင့်ဆင့်တွင် စီမံကိန်းဆိုင်ရာ အချက်အလက် များပြည့်စုံစွာ ဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့်ကုန်ထုတ်လုပ်မှုနည်းစနစ်များအသုံးပြုခြင်း၊ အဆိုပြုလွှာ တွင်ပါဝင်သည့် လူမှုရေးဆိုင်ရာ တာဝန်ခံမှု (Corportate Social Responsibility-CSR) လုပ်ငန်းများအတွက် အသားတင်အမြတ်ငွေ၏ (၂%) အား အသုံးပြုခြင်း တို့အပါအဝင် ကတိကဝတ်များ၊ လုပ်ငန်းစီမံချက်များအတိုင်း အကောင်အထည် ဖော်ဆောင်ရွက်ရန်၊ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုနှင့်

လူမှုရေး ထိခိုက်မှုမရှိစေရေး (သို့မဟုတ်) အနည်းဆုံးဖြစ်စေရေး တို့အတွက် ကနဦး ပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination -IEE) ဆောင်ရွက်ပြီး IEE အစီရင်ခံစာတင်ပြရန်၊ အထက်ပါ လေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ကို ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် ကုန်ထုတ်လုပ်မှုနည်းပညာများ၊ လုပ်ငန်းအစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည့်တို့ပါဝင်သည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးစီမံချက် (Environmental Management Plan-EMP) ရေးဆွဲတင်ပြရန် နှင့် အစီရင်ခံစာအတိုင်း အကောင်အထည် ဖော်ဆောင်ရွက်ရန်၊ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊စည်းမျဉ်းစည်းကမ်းများနှင့် အညီလိုက်နာကျင့်သုံးအကောင်အထည်ဖော်ဆောင်ရွက်ရန်၊ သက်ဆိုင်ရာတိုင်းဒေသကြီး အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့်ဒေသခံ ပြည်သူလူထုတို့၏ဆန္ဒနှင့် သဘောထားရယူဆောင်ရွက်ရန် ဖြစ်ကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။

**နောက်ဆက်တွဲ-ခ**

(ဂ) **စက်မှုဝန်ကြီးဌာနမှ** အဆိုပြုလုပ်ငန်းအတွက် လျှပ်စစ်သွယ်တန်းအသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန်လိုအပ်ပါကြောင်း၊ မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပေါ်စေရေး တို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန်လိုအပ်ပါကြောင်း၊ ရေသန့်၊နို့၊ပဲနို့နှင့် အချိုရည်များထုတ်လုပ်ရာတွင် ကောင်းမွန်သောထုတ်လုပ်မှုနည်းစဉ် (Good Manufacturing Practice-GMP) နှင့်အညီ ထုတ်လုပ်ရန်နှင့် ကျန်းမာရေးဝန်ကြီးဌာန၊ အစားအသောက်နှင့် ဆေးဝါးကွပ်ကဲရေးဦးစီးဌာနမှ လက်ခံနိုင်သော အရည်အသွေးနှင့် အညီ ထုတ်လုပ်ရန် လိုအပ်ပါကြောင်း၊ Milk Flavor, Chocolate Flavor and Strawberry Flavor များ ထည့်သွင်းသုံးစွဲမည့်ဖြစ်သည့်အပြင် Flavor ဟုလည်းထည့်သွင်းဖော်ပြထားပါကြောင်း၊ အသုံးပြုမည့် စက်ပစ္စည်းများစာရင်း သင့်လျော်မှုရှိပါကြောင်း၊ ကုန်ကြမ်းသုံးစွဲမှုတွင် SMP,WMP,AMF ဟုသာ ဖော်ပြထားသဖြင့် ကုန်ကြမ်းအမည် အပြည့်အစုံဖြင့် ရေးသား ဖော်ပြသင့်ပါကြောင်း သဘောထား ပြန်ကြားလာပါသည်။

**နောက်ဆက်တွဲ-ဂ**

(ဃ) **ကျန်းမာရေးဝန်ကြီးဌာနမှ** အဆိုပြုလုပ်ငန်းအတွက် ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြားလာပါသည်။

**နောက်ဆက်တွဲ-ဃ**

၁၀။ ငွေရေးကြေးရေး အထောက်အထားအဖြစ် Europe & Asia Company Limited သည် ကမ္ဘောဇဘဏ်တွင်(၇-၈-၂၀၁၅) ရက်စွဲဖြင့် ငွေစာရင်းလက်ကျန် ၅၀၀ဝသန်း ရှိကြောင်းEurope & Asia Beverages Company Limited ၏ MOA AOA မူကြမ်း၊ ကုမ္ပဏီ မှတ်ပုံတင် အထောက်အထားများ၊ ပုံစံ၆၊ ပုံစံ၂၆ နှင့် ဒါရိုက်တာအဖွဲ့ဝင်များ၏ မှတ်ပုံတင်မိတ္တူများအား တင်ပြထားပါသည်။

၁၁။ အဆိုပြုလုပ်ငန်းသည် မီးဘေးကာကွယ်ရေးစီမံချက်၊ အလုပ်အကိုင်သစ်များ ပေါ်ပေါက်လာမည့်အခြေအနေ၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေး စီမံချက်နှင့် ကျန်းမာရေးစောင့်ရှောက်မှုအစီအစဉ်များ၊ လစာခွန် ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိ ပြုခြင်း၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေး စီမံချက်အစီအစဉ်နှင့် စက်ရုံမှ မီးခိုးမည်း မထွက်စေရန် စီမံချက်၊ လုပ်ငန်းသဘောသဘာဝ၊ လျှပ်စစ်ဓာတ်အား ရယူသုံးစွဲမည့် အစီအစဉ်များကို တင်ပြထားပါသည်။

၁၂။ ကုမ္ပဏီမှ လုပ်ငန်းလုပ်ဆောင်၍ ရရှိလာသည့် အမြတ်ငွေ၏ ၂% ကို Cooperate Social Responsibility (CSR) လုပ်ငန်းတွင် ထည့်ဝင်မည်ဖြစ်ကြောင်း ဝန်ခံကတိ တင်ပြထားပါသည်။

၁၃။ **စိစစ်တင်ပြချက်**

(က) မြေနှင့်ပတ်သက်၍ ကုမ္ပဏီမှတင်ပြထားသောမြေများနှင့်စပ်လျဉ်း၍ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့မှ ကုမ္ပဏီအမည်ဖြင့် ထုတ်ပေးထားသော လယ်မြေမှတစ်ပါး လယ်ယာမြေအား အခြားနည်းအသုံးပြုရန် ခွင့်ပြုမိန့်များ၊ မြေစာရင်း ပုံစံ-၁၀၅ တို့ကို တင်ပြ ထားပါသည်။မြေအမျိုးအစားမှာ လ/န - ၃၉ ခွင့်ပြုပြီး မြေဖြစ်ပါသည်။ မြေဂရန်ရရှိရန်အတွက် လျှောက်ထားသည့် အထောက်အထား တင်ပြထားပါသည်။ ကော်မရှင်ခွင့်ပြုမိန့် ရရှိပြီးပါက အဆောက်အဦ ဆောက်လုပ်ပြီး ကုမ္ပဏီ အမည်ပေါက် မြေဂရန် ရရှိရန် ဆက်လက် ဆောင်ရွက် သွားမည် ဖြစ်ကြောင်း ဝန်ခံကတိ ပြုထားပါသည်။

(ခ) ကုမ္ပဏီမှ ထုတ်လုပ်သည့် ကုန်ပစ္စည်းများကို Vito ကုန်အမှတ်တံဆိပ်ဖြင့် ရောင်းချမည် ဖြစ်ပါသည်။

၁၄။ ကုမ္ပဏီမှ စက်ရုံမီးဘေးကာကွယ်ရေးစီမံချက်၊ ဝန်ထမ်းလစာများ နှင့် ပတ်သက်၍ သတ်မှတ်နှုန်းထားများအတိုင်း အခွန်ပေးဆောင်မှု ကတိဝန်ခံချက်၊ ကုမ္ပဏီ၏ ခွင့်ပြုမတည်

ငွေရင်းတိုးမြှင့်ခြင်းနှင့် ပတ်သက်၍ ဝန်ခံကတိပြု တင်ပြခြင်းနှင့် ပတ်ဝန်းကျင် ညစ်ညမ်းမှု မရှိစေရန် ကာကွယ်မှုအစီအစဉ်၊ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို တင်ပြထားပါသည်။

၁၅။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း(၁၁)၊ပုဒ်မ ၂၀ပါ (က၊ ဂ၊ စ၊ ဆ၊ ဇ၊ ည)အရ အခွန်အကောက်ကင်းလွတ်ခွင့်(သို့မဟုတ်)သက်သာခွင့်များကိုတင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင်မည် ဖြစ်ပါသည်။

၁၆။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၅ ခုနှစ် ဩဂုတ်လ ၃၁ ရက်နေ့ တွင် ကျင်းပပြုလုပ်သည့် ၃၁/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၇။ Europe & Asia Beverages Company Limited. သည် မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်ခရိုင်၊ စဥ့်ကိုင်မြို့နယ်၊မြောက်ကိုင်းကျေးရွာအုပ်စု၊ အကွက်အမှတ်(၁၉)၊ ဆဲ့နှစ်ကိုင်း၊ ဦးပိုင်အမှတ် (၁၇၀၊၁၇၁၊ ၁၇၂/၁၊၁၇၅/၁၊၁၇၆၊၁၇၇၊၁၇၈၊ ၁၇၉/၁၊၁၇၉/၂) ဧရိယာ ၂၂.၆၈ ဧကနှင့် ဦးပိုင်အမှတ် (၁၆၆/၂၊ ၁၆၇၊၁၆၈/၂၊ ၁၆၉) ရှိ ဧရိယာ ၉.၀၉ဧက (စုစုပေါင်းဧရိယာ ၃၁.၇၇ ဧက) ၁၂၈၅၆၈.၇၄ စတုရန်းမီတာတွင် ရေသန့်၊ နို့၊ ပဲနို့နှင့် အချိုရည် ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်း အပေါ် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊အတွင်းရေးမှူး)

မိတ္တူ

ရုံးလက်ခံ/မျှောစာတွဲ

## ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | Europe & Asia Beveragers Company Limited. | (၁) ဦးစိန်မြင့်<br>ဥက္ကဋ္ဌ<br>၁၃/ကခန(နိုင်)၀၀၉၉၃၉ | အမှတ်-၄(E)၊ အခန်း(၆)၊ ပုဂံလမ်း၊ မြကန်သာဥယျာဉ်အိမ်ယာ၊(၁၄) ရပ်ကွက်၊လှိုင်မြို့နယ်၊ရန်ကုန်မြို့။ |
| | | (၂) ဒေါ်သိန်းညွန့်<br>မန်နေဂျင်းဒါရိုက်တာ<br>၁၃/နမတ(နိုင်) ၀၂၄၈၂၀ | အမှတ်-၄(E)၊ အခန်း(၆)၊ ပုဂံလမ်း၊ မြကန်သာဥယျာဉ်အိမ်ယာ၊(၁၄) ရပ်ကွက်၊လှိုင်မြို့နယ်၊ရန်ကုန်မြို့။ |
| | | (၃) ဦးဟောင်ရှင်းရှောက်<br>ဒါရိုက်တာ<br>၁၃/လရန(နိုင်)၀၈၄၁၇၅ | အမှတ်(၄၉၅)၊၈၂-လမ်း၊(၃၅x၃၆) လမ်းကြား၊ရတနာဘုမ္မိအရှေ့ရပ်ကွက်၊ မဟာအောင်မြေမြို့နယ်၊မန္တလေးမြို့။ |
| | | (၄) ဒေါ်လောဆွေ<br>ဒါရိုက်တာ<br>၁၃/လရန(နိုင်)၀၅၄၁၆၀ | အမှတ်(၄၉၅)၊၈၂-လမ်း၊(၃၅x၃၆) လမ်းကြား၊ရတနာဘုမ္မိအရှေ့ရပ်ကွက်၊ မဟာအောင်မြေမြို့နယ်၊မန္တလေးမြို့။ |
| | | (၅) ဒေါ်ရွှေလှ<br>ဒါရိုက်တာ<br>၁၃/နမတ(နိုင်)၀၂၄၄၆၉ | အမှတ်-၂၀(D)၊ကော့သောင်းလမ်း၊ မြကန်သာဥယျာဉ်အိမ်ယာ၊(၁၄) ရပ်ကွက်၊လှိုင်မြို့နယ်၊ရန်ကုန်မြို့။ |
| | | (၆) ဒေါ်အေးခွမ်း<br>ဒါရိုက်တာ<br>၁၃/နမတ(နိုင်)၀၂၄၄၇၁ | အမှတ်(၅၄၉)၊(၃၄x၃၅လမ်းနှင့် (၈၅x၈၆ လမ်းကြား၊ အနောက် အောင်နန်းရိပ်သာ၊ချမ်းအေးသာဇံ မြို့နယ်၊မန္တလေးမြို့။ |
| | | (၇) ဦးကျော်စိန်<br>ဒါရိုက်တာ<br>၉/မမန(နိုင်)၀၇၇၆၉၁ | အမှတ်(၉၁)၊အကွက်အမှတ်(၆၂၁)၊ ၂၉လမ်း၊(၇၉x၈၀)လမ်းကြား၊ ဟေမာဇလရပ်ကွက်၊ချမ်းအေးသာဇံ မြို့နယ်၊မန္တလေးမြို့။ |
| | | (၈) ဦးစိုင်းအိုက်ထွန်း<br>ဒါရိုက်တာ<br>၁၃/နမတ(နိုင်)၀၂၂၁၇၈ | အမှတ်(၂၁)၊အေးရိပ်မွန်(၂)လမ်း၊ (၄)ရပ်ကွက်၊လှိုင်မြို့နယ်၊ ရန်ကုန်မြို့။ |
| | | (၉) ဦးဟောင်ဆင်းရှိ(ဟုန်ရှင်းရိ)<br>ဒါရိုက်တာ<br>၉/မရတ(နိုင်)၁၀၆၀၇၆ | အမှတ်(၄၇၈)၊၈၁-လမ်း၊ (၃၄x၃၅) လမ်းကြား၊အောင်နန်းရိပ်သာအရှေ့ ရပ်ကွက်၊ချမ်းအေးသာဇံမြို့နယ်၊ မန္တလေးမြို့။ |

| | | | |
|---|---|---|---|
| | | (၁၀) ဦးဟောင်ဆင်လုံ(ဦးကျော်ထွန်း)<br>ဒါရိုက်တာ<br>၉/မရမ(နိုင်)၀၄၆၄၄၀ | အမှတ်(၄၄၇)၊၈၁-လမ်း၊ (၃၂x၃၃)<br>လမ်းကြား၊ချမ်းအေးသာဇံမြို့နယ်၊<br>မန္တလေးမြို့။ |
| | | (၁၁) ဦးကျော်ဝင်းထွန်း<br>ဒါရိုက်တာ<br>၁၃/လရန(နိုင်)၀၉၁၇၇၄ | အမှတ်-၅-B၊<br>စစ်ကိုင်းလမ်း၊အမှတ်(၁၄)ရပ်ကွက်<br>၊ မြကန်သာအိမ်ယာ၊လှိုင်မြို့နယ်၊<br>ရန်ကုန်တိုင်းဒေသကြီး |
| | | (၁၂) ဦးအောင်ထွေး<br>ဒါရိုက်တာ<br>၁၃/လလန(နိုင်)၀၀၁၇၀၄ | အမှတ်-A(၃)၊သာယာဝတီမင်းကြီး<br>လမ်း၊ချမ်းမြသာယာရပ်ကွက်၊<br>ပြည်ကြီးတံခွန်မြို့နယ်၊မန္တလေးမြို့။ |
| | | (၁၃) ဦးစောမောင်<br>ဒါရိုက်တာ<br>၉/မရမ(နိုင်) ၀၀၁၄၀၄ | အမှတ်(၄၄၇)၊၈၁-လမ်း၊ (၃၂x၃၃)<br>လမ်းကြား၊ချမ်းအေးသာဇံမြို့နယ်၊<br>မန္တလေးမြို့။ |

၁။ ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် - ဦးကျော်ဝင်းထွန်း (တယ်လီဖုန်း ၀၉- ၅၁၄၅၃၈၉)

၂။ ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ - အမှတ်-၅-ခ၊စစ်ကိုင်းလမ်း၊အမှတ်(၁၄)ရပ်ကွက်၊ မြကန်သာအိမ်ယာ၊လှိုင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

၃။ ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး -

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - ရေသန့်၊ နို့၊ ပဲနို့နှင့် အချိုရည် ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ - ၇၂၆/၂၀၁၄-၂၀၁၅(၁၅-၅-၂၀၁၄)

၆။ ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ - ၁၄-၅-၂၀၁၉

၇။ ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် -

FROM :

AIC/1 19/17/ ။



ကန့်သတ်



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့
မန္တလေးမြို့

စာအမှတ်၊ ၂/ ၃ - ၆ / ၃၂ ဦး ၆(၃၁၈ )
ရက် စွဲ ၊ ၂၀၁၅ ခုနှစ်၊ နိုဝင်ဘာလ ၁၃ ရက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ။ သဘောထားပြန်ကြားခြင်း

ရည်ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ ရန်ကုန်မြို့၏ (၇ . ၁၀ . ၂၀၁၅)ရက်စွဲပါ စာအမှတ်၊ ရကာ - ၂ / မ - ၂၁၈ / ၂၀၁၅ (၆၉၀)

၁။ ကျောက်ဆည်ခရိုင်၊ စဥ့်ကိုင်မြို့နယ်၊ မြောက်ကိုင်း ကျေးရွာအုပ်စု၊ အကွက်အမှတ်(၁၉)၊ ဆယ်နှစ်ကိုင်း၊ ဦးပိုင်အမှတ်(၁၇၀၊ ၁၇၁၊ ၁၇၂/၁၊ ၁၇၅/၁၊ ၁၇၆၊ ၁၇၇၊ ၁၇၈၊ ၁၇၉/၁၊ ၁၇၉/၂) ရှိ မြေဧရိယာ(၂၂.၆၈)ဧက နှင့် ဦးပိုင်အမှတ်(၁၆၆/၂၊ ၁၆၇၊ ၁၆၈/၂၊ ၁၆၉)ရှိ မြေဧရိယာ(၉.၀၉)ဧက၊ စုစုပေါင်းမြေဧရိယာ(၃၁.၇၇)ဧက (၁၂၈၅၆၈.၇၄ စတုရန်းမီတာ)အား ဥရောပအာရှ အဖျော်ယမကာ ကုမ္ပဏီလီမိတက်(Europe & Asia Beverages Co.,Ltd) က ငှားရမ်းပြီး ရေသန့်၊ နို့၊ ပဲနို့နှင့် အချိုရည်ထုတ်လုပ် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုနိုင်ရန် တိုင်းဒေသကြီးအစိုးရအဖွဲ့သဘောထားကို ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာပါသည်။

၂။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လျှောက်ထားမြေနှင့်ပတ်သက်၍ စိစစ်ခဲ့ရာ စဥ့်ကိုင်မြို့နယ်၊ မြောက်ကိုင်း ကျေးရွာအုပ်စု၊ အကွက်အမှတ်(၁၉)တွင်တည်ရှိပြီး မြို့နယ်လယ်ယာမြေ စီမံခန့်ခွဲရေး နှင့်စာရင်းအင်းဦးစီးဌာနမှလည်း မြေစာရင်းပုံစံ(၁၀၅) (၁၀၆) ရေးကူးဆောင်ရွက်ပေးပြီး ဖြစ်သည့် အပြင် လယ်ယာမြေ အခြားနည်းအသုံးပြုခွင့်ကို ရရှိထားပြီးဖြစ်ပါကြောင်း၊ လျှောက်ထားမြေနေရာ၏ အရှေ့ဘက်တွင် ဒုဌပတီမြစ်၊ မြောက်ဘက်တွင် CP ကြက်မွေးမြူရေးခြံ (နှစ်ကာလကြာရှည်စွာ အမြဲ မွေးမြူခြင်း မဟုတ်ဘဲ ရာသီအလိုက် ကာလတိုမွေးမြူခြင်း)၊ အနောက်ဘက်တွင်နှစ်ရှည်သရက်ခြံ၊ တောင်ဘက်တွင် ရေကန်များနှင့် (၃)ဖာလုံခန့်အကွာတွင် ပလိပ်ကျေးရွာအုပ်စု၊ ကန်သာအေးကျေးရွာ တည်ရှိပါကြောင်း၊ လက်ရှိတွင် ဝန်ထမ်းများနေထိုင်ရန်အတွက် RCကွန်ကရစ် အဆောက်အဦတစ်လုံး ဆောက်လုပ်နေလျက်ရှိပါကြောင်းစိစစ်တွေ့ရှိရပါသည်။

၃။ မြေပြင်စိစစ်ချက်များအပြင် လုပ်ငန်းဆောင်ရွက်ရာတွင် Transformer(10 MVA 33/11) 2.5 MVA 33/0.4 ကို တပ်ဆင်အသုံးပြုမည်ဖြစ်ပြီး၊ ဝန်ထမ်း(၃၇၁)ဦး ခန့်ထား ဆောင်ရွက်မည်ဖြစ်ကြောင်း၊ ကုန်ထုတ်အဆောက်အဦများ၊ ဝန်ထမ်းနေအိမ်များ၊ ဂိုဒေါင်များ၊ ရေစစ်ကန် (Treatment Plan)များကိုလည်း ထည့်သွင်းတည်ဆောက်မည်ဖြစ်ကြောင်း၊ ထုတ်လုပ်ကုန်ပစ္စည်းများအား ပြည်တွင်း

ကန့်သတ်

-၁၆-

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**

**ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန**

**ပြည်ထောင်စုဝန်ကြီးရုံး**

စာအမှတ် ၃(၂)/၁၆(ဃ)(၆)/( ၂၅၈၂ /၂၀၁၅)

ရက်စွဲ ၂၀၁၅ ခုနှစ်၊ စက်တင်ဘာလ ၂၃ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ <u>သဘောထားမှတ်ချက်ပြန်ကြားခြင်း</u>

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၇-၉-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက - ၂ / မ - ၂၁၈ / ၂၀၁၅ ( ၆၈၉ )

၁။ ဥရောပ အာရှ အဖျော်ယမကာ ကုမ္ပဏီလီမိတက် ( Europe & Asia Beverages Co., Ltd. ) သည် ကုမ္ပဏီပိုင် မန္တလေးတိုင်းဒေသကြီး ၊ ကျောက်ဆည်ခရိုင် ၊ စဉ့်ကိုင်မြို့နယ် ၊ မြောက်ကိုင်းကျေးရွာအုပ်စု ၊ အကွက်အမှတ် (၁၉) ၊ ဆယ်နှစ်ကိုင်း ၊ ဦးပိုင်အမှတ် ( ၁၇၀၊ ၁၇၁၊ ၁၇၂/၁၊ ၁၇၆၊ ၁၇၇၊ ၁၇၈၊ ၁၇၉/၁၊ ၁၇၉/၂)၊ ဧရိယာ ( ၂၂.၆၈ ) ဧက နှင့် ဦးပိုင်အမှတ် ( ၁၆၆/၂၊ ၁၆၇၊ ၁၆၈/၂၊ ၁၆၉ ) ရှိ ဧရိယာ ( ၉.၀၉ ) ဧက ( စုစုပေါင်းဧရိယာ ၃၁.၇၇ )ဧက ( ၁၂၈၅၆၈.၇၄ စတုရန်းမီတာ ) တွင် ရေသန့် ၊ နို့ ၊ ပဲနို့ နှင့် အချိုရည်ထုတ်လုပ်ခြင်း နှင့် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့် ပတ်သက်၍ စိစစ်ပြီး ဌာနဆိုင်ရာ သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပြု လုပ်ငန်းနှင့်ပတ်သက်၍ စိစစ်ရာတွင် ကုန်ချောထုတ်လုပ်ခြင်းအတွက် အသုံးပြုမည့် ကုန်ကြမ်းများဖြစ်သည့် ပဲပိစပ်၊ သန့်စင်ထားသောသကြား၊ Flavour အမှုန့်စသည်တို့သည် ပတ်ဝန်းကျင်အား သိသာစွာထိခိုက်စေမှု မရှိနိုင်သော်လည်း ထုတ်လုပ်ခြင်းလုပ်ငန်းများအတွက် အသုံးပြုမည့် ကုန်ကြမ်း ပစ္စည်းများဖြစ်သည့် ကော်စေ့ ၊ ပလတ်စတစ်စသည့် ကုန်ကြမ်းပစ္စည်းများသည် ဆွေးမြည့်ပျက်စီးရန် အချိန်ကြာမြင့်သဖြင့် ပတ်ဝန်းကျင်ထိခိုက်ပျက်စီးမှုဖြစ်ပေါ်နိုင်ခြင်း ၊ ထုတ်လုပ်မှု လုပ်ငန်းများမှ ထွက်ရှိလာမည့် စွန့်ပစ်အရည် နှင့် စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင် လေထု ၊ မြေထု နှင့် ရေထုညစ်ညမ်းမှုများ ဖြစ်ပေါ်နိုင်ခြင်းနှင့် ထုတ်လုပ်မှု အဆင့်ဆင့်တွင် စက်များ အသုံးပြုခြင်းတို့ ဆောင်ရွက်မည်ဖြစ်သဖြင့် အသံဆူညံခြင်းစသော ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများဖြစ်ပေါ်စေနိုင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ ဥရောပ အာရှ အဖျော်ယမကာကုမ္ပဏီလီမိတက်မှ ရေသန့် ၊ နို့ ၊ ပဲနို့ နှင့် အချိုရည် ထုတ်လုပ်ခြင်း နှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းနှင့်ပတ်သက်၍ အောက်ဖော်ပြပါ အချက်များအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်ပျက်စီးမှုများ လျော့နည်းစေရေးအတွက် လုပ်ငန်းစီမံချက်များ ရေးဆွဲချမှတ်ခြင်း၊

-၂-

ထုတ်လုပ်ခြင်း လုပ်ငန်းအဆင့်ဆင့်တွင် စီမံကိန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာ ဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် ကုန်ထုတ်လုပ်မှု နည်းစနစ်များ အသုံးပြုခြင်း ၊ အဆိုပြုလွှာတွင် ပါဝင်သည့် လူမှုရေးဆိုင်ရာ တာဝန်ခံမှု ( Corporate Social Responsibility - CSR ) လုပ်ငန်းများအတွက် အသားတင် အမြတ်ငွေ၏ (၂%) အား အသုံးပြုခြင်းတို့ အပါအဝင် ကတိကဝတ်များ ၊ လုပ်ငန်းစီမံချက်များအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု နှင့် လူမှုရေး ထိခိုက်မှု မရှိစေရေး ( သို့မဟုတ် ) အနည်းဆုံး ဖြစ်စေရေးတို့အတွက် ကနဦး ပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination - IEE) ဆောင်ရွက်ပြီး IEE အစီရင်ခံစာတင်ပြရန်၊

(ဂ) အထက်ပါလေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ကိုထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် ကုန်ထုတ်လုပ်မှု နည်းပညာများ ၊ လုပ်ငန်းအစီအစဉ် ၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေစသည့် တို့ပါဝင်သည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးစီမံချက်(Environmental Management Plan - EMP) ရေးဆွဲတင်ပြရန် နှင့် အစီရင်ခံစာအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေများ ၊ လုပ်ထုံးလုပ်နည်း ၊ စည်းမျဉ်းစည်းကမ်းများနှင့် အညီ လိုက်နာကျင့်သုံးအကောင်အထည် ဖော်ဆောင်ရွက်ရန်၊

(င) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူလူထုတို့၏ ဆန္ဒနှင့် သဘောထားရယူဆောင်ရွက်ရန်၊

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( ခင်မောင်ရီ ၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူကို
ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ကန့်သတ်

-၁၈-

MIC, 13/14110

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၂၁ - စမ (၂) ၂၀၁၅ - ၂၀၁၆ (၂၂၄၁)

ရက် စွဲ၊ ၂၀၁၅ ခုနှစ်၊ အောက်တိုဘာလ ၇ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၇.၉.၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၂/မ-၂၁၈ / ၂၀၁၅ (၆၈၇)

၁။ ဥရောပအာရှအဖျော်ယမကာကုမ္ပဏီလီမိတက်မှ နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် မန္တလေးတိုင်း ဒေသကြီး၊ ကျောက်ဆည်ခရိုင်၊ စဉ့်ကိုင်မြို့နယ်၊ မြောက်ကိုင်းကျေးရွာအုပ်စု၊ အကွက်အမှတ်(၁၉)၊ ဆယ်နှစ်ကိုင်း၊ ဦးပိုင်အမှတ်(၁၇၀၊ ၁၇၁၊ ၁၇၂/၁၊ ၁၇၅/၁၊ ၁၇၆၊ ၁၇၇၊ ၁၇၈၊ ၁၇၉/၁၊ ၁၇၉/၂)နှင့် ဦးပိုင်အမှတ်(၁၆၆/၂၊ ၁၆၇၊ ၁၆၈/၂၊ ၁၆၉)တို့တွင် ရေသန့်၊ နို့၊ ပဲနို့နှင့် အချိုရည်ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှဆောင်ရွက်မည့်လုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) နိုင်ငံသားရင်းနှီးမြှုပ်နှံပြီး ရေသန့်၊ နို့၊ ပဲနို့နှင့် အချိုရည်ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည် ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

(င) ရေသန့်၊ နို့၊ ပဲနို့နှင့် အချိုရည်များ ထုတ်လုပ်ရာတွင် ကောင်းမွန်သောထုတ်လုပ်မှုနည်းစဉ် (Good Manufacturing Practice - GMP) နှင့်အညီထုတ်လုပ်ရန်နှင့် ကျန်းမာရေးဝန်ကြီးဌာန၊ အစားအသောက်နှင့်ဆေးဝါးကွပ်ကဲရေးဦးစီးဌာနမှ လက်ခံနိုင်သော အရည်အသွေးနှင့်အညီ ထုတ်လုပ်ရန် လိုအပ်ပါသည်။

(စ) Milk Flavor, Chocolate Flavor and Strawberry Flavor များ ထည့်သွင်းသုံးစွဲမည်ဖြစ်သည့်အပြင် Flavor ဟုလည်း ထည့်သွင်းဖော်ပြထားပါသည်။

(ဆ) အသုံးပြုမည့် စက်ပစ္စည်းများစာရင်း သင့်လျော်မှု ရှိပါသည်။

(ဇ) ကုန်ကြမ်းသုံးစွဲမှုတွင် SMP, WMP, AMF ဟုသာဖော်ပြထားသဖြင့် ကုန်ကြမ်းအမည်အပြည့်အစုံဖြင့် ရေးသားဖော်ပြသင့်ပါသည်။

၃။ သို့ပါ၍ ဥရောပအာရှအဖျော်ယမကာကုမ္ပဏီလီမိတက်မှ ရေသန့်၊ နို့၊ ပဲနို့နှင့် အချိုရည်ထုတ်လုပ်ခြင်းနှင့်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် အထက်ပါလိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့်ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(သွင်မြင့်မောင်၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

မြန်မာ့ဆေးဝါးလုပ်ငန်း

